စာချုပ်ဝင်နှစ်ဦးစလုံး၏ သဘောတူညီချက်ဖြင့် ရပ်စဲခြင်းဟုဖော်ပြထားခြင်း စသည်တို့ကြောင့် အပိုဒ် ၁၅.၁ အား ပယ်ဖျက်ရန်ဖြစ်ပါသည်၊

(ည) စာချုပ်(မူကြမ်း)သည် Liquified Petroleum Gas (LPG) လုပ်ငန်းဆိုင်ရာ စီမံကိန်း အကောင်အထည်ဖော်ရန်ဖြစ်ကြောင်း တွေ့ရှိရပါသည်။ ၂၀၁၇ ခုနှစ်၊ ပြည်ထောင်စုလွှတ်တော်ဥပဒေအမှတ် ၂၀၊ ရေနံနှင့် ရေနံထွက်ပစ္စည်းဆိုင်ရာ ဥပဒေပုဒ်မ ၁၀(က) အရ သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေး ဝန်ကြီးဌာနသည် သိုလှောင်ကန်နှင့် သိုလှောင်ရုံများအတွက် သိုလှောင်ခွင့် လိုင်စင်ထုတ်ပေးရမည်ဟုလည်းကောင်း၊ ယင်းဥပဒေ ပုဒ်မ ၁၅ တွင် ဘေးအန္တရာယ်မရှိသော ရေနံနှင့် ရေနံထွက်ပစ္စည်းများကို ပြည်တွင်း၌ ဂါလန် ၅၀၀ ထက် ပိုမိုလျှင် လိုင်စင်ရယူရမည်။ သို့ရာတွင် သယ်ယူပို့ဆောင်ခြင်း သို့မဟုတ် သိုလှောင်ခြင်းပြုလုပ်လိုသူသည် စုစုပေါင်းဂါလန် ၅၀၀ နှင့် အောက်ရှိသော ပမာဏကိုထားသိုရာတွင် ဂါလန် ၂၀၀ ထက် မကျော်လွန်သည့် ထုပ်ပိုးထည့်သွင်းပစ္စည်းကို အသုံးပြုရမည်ဟုလည်းကောင်း ပြဋ္ဌာန်းထား ပါသည်။ သို့ပါ၍ ဆောင်ရွက်မည့် LPG လုပ်ငန်းဆိုင်ရာ စီမံကိန်းနှင့် စပ်လျဉ်း၍ ယင်းဥပဒေပြဋ္ဌာန်းချက်များနှင့်အညီ ဆောင်ရွက်ရန် ဖြစ်ပါသည်။ ထို့ပြင် ဓာတ်ဆီ၊ ဒီဇယ်ဆီနှင့် ဆီသိုလှောင်ခြင်း၊ ဆီသိုလှောင်ကန်၊ ဓာတ်ငွေ့သိုလှောင်ကန်နှင့် ဆိပ်ခံတံတားများ တည်ဆောက် တပ်ဆင်၍ လုပ်ငန်းများအကောင်အထည်ဖော်ခြင်း လုပ်ငန်းများအတွက် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၀-၄-၂၀၁၇ ရက်စွဲပါ အမိန့် ကြော်ငြာ စာအမှတ် ၁၅/၂၀၁၇ အပိုဒ် (ဃ)၊ အစဉ် ၆(၄)အရ လျှပ်စစ်နှင့် စွမ်းအင် ဝန်ကြီးဌာန၏ အတည်ပြုချက်ရယူရန် လိုအပ်မည်ဖြစ်ပါသည်၊

(ဋ) စာချုပ်(မူကြမ်း)၌ Withholding Tax၊ Commercial Tax တို့အား မည်သို့

ပေးဆောင်မည်ဖြစ်ကြောင်း ဖော်ပြမထား၍ ယင်းကိစ္စနှင့် စပ်လျဉ်း၍ စီမံကိန်းနှင့် ဘဏ္ဍာရေးဝန်ကြီးဌာနနှင့် ညှိနှိုင်းဆောင်ရွက်ရန်ဖြစ်ပါသည်၊

(ဌ) စာချုပ်(မူကြမ်း)ပါ မြန်မာဘာသာနှင့် အင်္ဂလိပ်ဘာသာတို့အကြား ဘာသာပြန်ဆိုမှုကိုက်ညီစေရေးအတွက် ဌာနကတာဝန်ယူစိစစ်ရန်ဖြစ်ပါသည်၊

(ဍ) လိုအပ်သော နေရာအချို့၌ မင်နီဖြင့် ပြင်ဆင်ပေးလိုက်ပါသည်။

၆။ ဤ စာချုပ်(မူကြမ်း)ကို ပြည်ထောင်စုရှေ့နေချုပ်ဥပဒေနှင့်အညီ ဥပဒေကြောင်းအရ ဥပဒေအကြံဉာဏ်ပေးခြင်းဖြစ်ပါသည်။ ဥပဒေရေးရာမဟုတ်သည့် စီမံရေးရာ၊ ဘဏ္ဍာရေးရာ ကျွမ်းကျင်မှုဆိုင်ရာကိစ္စရပ်များ နှင့်စပ်လျဉ်း၍ သက်ဆိုင်ရာကျွမ်းကျင်သူများနှင့် ဆွေးနွေးညှိနှိုင်း ဆောင်ရွက်ရန် အကြံပြုပါသည်။

၇။ STAR HIGH Co., Ltd (SHC) နှင့် CECA GOLD Co., Ltd (CECA)တို့သည် ဥပဒေအရ တရားဝင်ဖွဲ့စည်းထားသည့် ကုမ္ပဏီများဟုတ် မဟုတ်၊ စာချုပ်ပါလုပ်ငန်းများကို လုပ်ကိုင်နိုင်ခွင့်နှင့် လုပ်ကိုင်နိုင်စွမ်းရှိ မရှိ၊ ငွေကြေးအင်အား ပြည့်စုံမှုရှိ မရှိ၊ စာချုပ်တွင် လက်မှတ်ရေးထိုးမည့်သူများသည် တရားဝင်လွှဲအပ်ခြင်းခံရသူများဟုတ် မဟုတ်စသည်တို့ကို ကြိုတင်စိစစ်ရန် လိုအပ်မည်ဖြစ်ပါသည်။

၈။ ဤ စာချုပ် (မူကြမ်း)ကို လက်မှတ်ရေးထိုးချုပ်ဆိုပြီးပါကမှတ်တမ်းတင်ထားနိုင်ရန်အတွက် ဤရုံးသို့ မိတ္တူ(၁)စောင် ပေးပို့ပါရန် မေတ္တာရပ်ခံအပ်ပါသည်။

(ဒေါက်တာသီတာဦး)
ညွှန်ကြားရေးမှူးချုပ်

ဦးဆောင်ညွှန်ကြားရေးမှူး
မြန်မာ့စီးပွားရေးကော်ပိုရေးရှင်း
စစ်ထောက်ချုပ်ရုံး
ကာကွယ်ရေးဦးစီးချုပ်ရုံး(ကြည်း)
မိတ္တူ - ရုံးလက်ခံ / မျှောစာတွဲ

# သဘော်ဖျက်စက်ရုံ(သီလဝါ)တွင် STAR HIGH Co.,Ltd မှ LPG လုပ်ငန်းဆောင်ရွက်မည့် တည်မြေနေရာပြ ကောင်းကင်ဓာတ်ပုံ



## သဘော်ဖျက်စက်ရုံ(သီလဝါ)တွင် STAR HIGH Co.,Ltd မှ LPG လုပ်ငန်းဆောင်ရွက်မည့် အကွက်ချပုံစံ



# LPG Storage Facility Project Site Location Map

Presented by CECA GOLD Co.,Ltd




Imagery ©2018 DigitalGlobe, DigitalGlobe, Map data ©2018 Google

| | |
|---|---|
| Existing Wall Length | – 2509 ft |
| Distance from KaungWah gate to our Entrance | - 233 ft |
| Distance from our Entrance to end of the Wall | - 923 ft |
| Our Entrance Width | - 50 ft |

Existing Wall

Proiect Boundarv

29.5 ft wide Concrete Road

Date – 10 April 2018

**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်**

**ကာကွယ်ရေးဦးစီးချုပ်ရုံး (ကြည်း)**

**စစ်ထောက်ချုပ်ရုံး**

**မြန်မာစီးပွားရေးကော်ပိုရေးရှင်း**

စာအမှတ်၊ ၁၀/၁၀/၄၀ /မ စ က (စီမံကိန်း)

ရက်စွဲ၊ ၂၀၁၈ခုနှစ်၊စက်တင်ဘာလ၊ ၁၉ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **မြန်မာစီးပွားရေးကော်ပိုရေးရှင်း၊ Star High Co.,Ltd မှ ဆိပ်ခံတံတားတည်ဆောက်ပြီး CECA Gold Co.,Ltd က LPG တင်သွင်းဖြန့်ဖြူးခြင်းဖြင့် အကျိုးတူ စီးပွားရေးလုပ်ငန်း ပူးပေါင်းဆောင်ရွက်ခွင့်တင်ပြခြင်းကိစ္စ**

၁။ မြန်မာစီးပွားရေးကော်ပိုရေးရှင်း၊ Star High Co.,Ltd မှ ဆိပ်ခံတံတားတည်ဆောက်ပြီး CECA Gold Co.,Ltd က LPG တင်သွင်းဖြန့်ဖြူးခြင်းဖြင့် အကျိုးတူစီးပွားရေးလုပ်ငန်း ပူးပေါင်းလုပ်ဆောင်ခွင့်ပြုပါရန် မြန်မာစီးပွားရေးကော်ပိုရေးရှင်းမှ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ ၁၁.၉.၂၀၁၈ ရက်နေ့တွင် တင်ပြခဲ့ပါသည်။

၂။ ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများ ညွှန်ကြားမှုဦးစီးဌာန၊ ရင်းနှီးမြှုပ်နှံမှုဌာနခွဲ (၄) မှ ၁၇.၉.၂၀၁၈ ရက်နေ့တွင် ကုမ္ပဏီသို့ အကြောင်းကြားချက်အရ အဆိုပြုချက်တွင် ပြင်ဆင်တင်ပြရန် လိုအပ်သည့် အချက်အလက်များအား အောက်ပါအတိုင်း ရှင်းလင်းပေးပို့အပ်ပါသည်-

(က) **ဆိပ်ခံတံတားတည်ဆောက်မည့်ပုံစံ**။ နောက်ဆက်တွဲ (က)ဖြင့် ပူးတွဲတင်ပြအပ်ပါသည်။

(ခ) **သယ်ယူ ပို့ဆောင်မည့် လမ်းကြောင်း**။ သယ်ယူပို့ဆောင်မည့် လမ်းကြောင်းအား Google Map တွင်ရေးဆွဲဖော်ပြထားပြီးနောက်ဆက်တွဲ (ခ)ဖြင့် တင်ပြအပ်ပါသည်။

D: myshare(kmn)/contractlaw/New2017/ MIC- Star High & Ceca Gold(LH).doc

(ဂ) **မြန်မာစီးပွားရေး ကော်ပိုရေးရှင်း၏ လုပ်ငန်း မြေဆိုင်ရာ ပိုင်ဆိုင်မှု အထောက်အထား။** ယခုဆောင်ရွက်မည့် Project သည် မြန်မာစီးပွားရေးကော်ပိုရေးရှင်းလက်အောက်ခံသဘော်ာဖျက်စက်ရုံ (သီလဝါ) ၏ မြေ (၂၅)ဧကအနက် (၈)ဧကတွင် ဆောင်ရွက်မည့် Project ဖြစ်ပြီး မြန်မာစီးပွားရေးကော်ပိုရေးရှင်း၊ သဘော်ာဖျက်စက်ရုံ (သီလဝါ) ၏မြေပိုင်ဆိုင်မှုအထောက်အထားအား နောက်ဆက်တွဲ (ဂ)ဖြင့် ပူးတွဲ တင်ပြအပ်ပါသည်။

(ဃ) မြန်မာစီးပွားရေးကော်ပိုရေးရှင်း၊ Star High Co.,Ltd နှင့် CECA Gold Co.,Ltd တို့အကြား ၂၀၁၇ခုနှစ်၊အောက်တိုဘာလ (၁၉)ရက်နေ့တွင် လက်မှတ်ရေးထိုးထားသည့် သဘောတူညီမှုမှတ်တမ်း (MOA) အား နောက်ဆက်တွဲ (ဃ)ဖြင့် ပူးတွဲတင်ပြအပ်ပါသည်။

(င) Star High Co.,Ltd သည် မြန်မာစီးပွားရေးကော်ပိုရေးရှင်း ၏ လက်အောက်ခံကုမ္ပဏီ (Subsidiary)တစ်ခုဖြစ်ကြောင်း နှင့် ပြည်ထောင်စုရှေ့နေချုပ်ရုံး၏ သဘောထားမှတ်ချက်နှင့် အညီ ဆောင်ရွက်ထားရှိမှု အခြေအနေအား နောက်ဆက်တွဲ (င)ဖြင့် ပူးတွဲ တင်ပြအပ်ပါသည်။

၃။ ထို့အပြင် အခြားလိုအပ်ချက်များ ဖြစ်သည့် LPG သိုလှောင်ကန် (Model Specification)နမူနာပုံစံ၊သိုလှောင်ကန်ဝင်ဆံ့သည့် ပမာဏနှင့် အရေအတွက်စသည့် လုပ်ငန်းဆိုင်ရာ ရှင်းလင်းချက် (Business Plan Scope of Work, Project Timeline)၊မီးဘေးလုံခြုံမှုဆိုင်ရာ အသေးစိတ်ရှင်းလင်းချက်တို့အား ပူးတွဲတင်ပြထားရှိပါသည်။

၄။ ဖက်စပ်ကုမ္ပဏီနှင့် လူပုဂ္ဂိုလ် အချင်းချင်း ချုပ်ဆိုသည့် လုပ်ငန်းသဘောတူစာချုပ် (Joint Venture Agreement)အား ဆက်လက်ပေးပို့တင်ပြပါမည်။

၅။ သို့ဖြစ်ပါ၍ မြန်မာစီးပွားရေးကော်ပိုရေးရှင်း၊Star High Co.,Ltd မှ ဆိပ်ခံတံတား တည်ဆောက်ပြီး CECA Gold Co.,Ltd က LPG တင်သွင်းဖြန့်ဖြူးခြင်းဖြင့်

စီးပွားရေးလုပ်ငန်း အကျိုးတူ ပူးပေါင်းဆောင်ရွက်မည့် Project အတွက် လိုအပ်သည့် အချက်အလက်များအား လိုအပ်သလိုဆက်လက်ဆောင်ရွက်ပေးနိုင်ပါရန်တင်ပြအပ်ပါသည်။

ဦးဆောင်ညွှန်ကြားရေးမှူး

ဒေါက်တာမြင့်သန်း
B.Sc(DSA)MA(Business Law)(Credit)LL.D(UK)

**အထွေထွေမန်နေဂျာ**
**စီမံကိန်းဌာန**
**မြန်မာ့စီးပွားရေးကော်ပိုရေးရှင်း**

မိတ္တူကို

Star High Co.,Ltd.

CECA Gold Co.,Ltd.

ရုံးလက်ခံ

မျှော


448'-0"(LIMIT LINE)
34.8m
60.0m
34.8m
Bent-1
Bent-2
Bent-3
Bent-4
20m
1.5m 5.67m 5.67m 5.67m 1.5m
Row-1
Row-2
Row-3
Row-4
Row-5
Row-6
Row-7
Row-8
Row-9
Row-10
Row-11
Row-12
Row-13
Row-14
Row-15
Row-16
Row-17
Row-18
Row-19
Row-20
Row-21
Row-22
Row-23
Row-24
Row-25
Row-26
Row-27
Row-28
Row-29
Row-30
Row-31
BD1
BD2
MD1
MD2
20.0m
1.0m
1.5m
15m
158m
6.0m
4.75
Bent-1a
Bent-2a
DECK PLAN
Ah Yone Oo (Dawn) Construction Co., Ltd
DRAWN: TLM
CHECKED:
APPROVED:
SHEET NO.:
REVISION:
OWNER/APPLICANT
PROJECT:
THILAWA SHIP BREAKING YARD JETTY
TITLE:
DECK PLAN
SCALE: 1:550
DATE: 16.7.2018
DRAWING NO: 02
REV. NO.

နောက်ဆက်တွဲ (ဃ)

နောက်ဆက်တွဲ (က)




| | | | | | |
|---|---|---|---|---|---|
| Ah Yone Oo (Dawn) Construction Co., Ltd.<br>609(A), 606(B), 6th FLOOR, YUZANA TOWER, SHWEGONDINE, BAHAN, YANGON | DRAWN: TLM<br>CHECKED:<br>APPROVED:<br>SHEET No.: | REVISION: | OWNER/APPLICANT | PROJECT:<br>THILAWA SHIP BREAKING YARD JETTY | TITLE: DECK PLAN<br>SCALE: 1:550 DATE: 16.7.2018 | DRAWING. NO: 02<br>REV. NO. |

နောက်ဆက်တွဲ ( ၁ )

သဲဆော်ဖျက်စက်ရုံ(သီလဝါ)တွင် Ceca Gold Co.,Ltd. မှ လုပ်ငန်းဆောင်ရွက်မည့်မြေ(၈)ကေနေရာတွင် ကာရံမည့် အုတ်တံတိုင်း နှင့် စီမံကိန်းဝင်/ထွက်ပေါက် တည်နေရာပြ ကောင်းကင်ဓာတ်ပုံ



သဘော်ဖျက်စက်ရုံ(သီလဝါ)တွင် Ceca Gold Co.,Ltd.မှ တည်ဆောက်မည့်တည်နေရာပြပုံ






စက်ရုံပိုင်ဧရိယာ(၈၀၈.၂၅)ဧက

စက်ရုံမြို့စည်းရိုးခတ် (၁၄၆.၈၆)ဧက

ကွန်ကရိကားလမ်း

Brighter Energy (၁၆၈.၅)ဧက

Star High Co.,Ltd၏ LPG, Disel & Octane (၂၅)ဧက မြေနေရာ

မြေသားကားလမ်း

အုတ်တံတိုင်း

ပူးတွဲ (ဃ)

# ကာကွယ်ရေးဦးစီးချုပ်ရုံး(ကြည်း)

# စစ်ထောက်ချုပ်ရုံး

# မြန်မာစီးပွားရေးကော်ပိုရေးရှင်း

STAR HIGH Co.,Ltd

နှင့်

CECA GOLD Co.,Ltd.

တို့အကြား

Liquified Petroleum Gas တင်သွင်း/ဖြန့်ဖြူးခြင်းလုပ်ငန်းအား

အကျိုးတူစီးပွားရေးလုပ်ငန်း ပူးပေါင်းဆောင်ရွက်ရန်အတွက်

သဘောတူညီချက်မှတ်တမ်း

Memorandum of Agreement (MOA)

ရက်စွဲ၊ ၂၀၁၇ ခုနှစ်၊ အောက်တိုဘာလ၊ (၁၉) ရက်

မာတိကာ

၆။ Withholding Tax နှင့် Commercial Tax တို့အား မည်သို့ ပေးဆောင်မည်ဖြစ်ကြောင်း ဖော်ပြမထားခြင်းနှင့် စပ်လျဉ်း၍ CECA ၏ တာဝန်များ ခေါင်းစဉ်အောက်ရှိ စာချုပ် (မူကြမ်း) အပိုဒ်ခွဲ ၂.၅.၁၄ တွင် ပြည့်စုံစွာ ဖော်ပြထားပြီးဖြစ်ကြောင်းနှင့် MIC သို့ တင်ပြချိန်တွင်လည်း သတ်မှတ်ညွှန်ကြားချက်အတိုင်း ဆောင်ရွက်သွားပါမည်။

၇။ SHC ၏ တာဝန်များ အပိုဒ်ခွဲ ၂.၄.၄ ၌ CECA ၏ LPG သင်္ဘောများ ဆိပ်ခံတံတားသို့ ဆိုက်ကပ်ချိန်တွင် တံတားကပ်ခ၊ တံတားအသုံးပြုခနှင့် ကုန်တင်/ကုန်ချခ စသည်တို့အား မြန်မာ့ဆိပ်ကမ်းအာဏာပိုင်မှ သတ်မှတ်ပြဋ္ဌာန်းထားသည့် နှုန်းထားအပေါ် ၃% လျော့၍ ပေးချေခွင့်ပြုရမည်ဟု ဖော်ပြထားသဖြင့် မြန်မာ့ဆိပ်ကမ်းအာဏာပိုင်နှင့် ညှိနှိုင်းဆောင်ရွက်ရန် အချက်နှင့် စပ်လျဉ်းပြီး၊ မိမိတို့ MEC (SHC) အနေဖြင့် ဆက်လက်ညှိနှိုင်းဆောင်ရွက်သွားပါမည်။

၈။ MOA တွင် ဆောက်လုပ်ရေးကာလ ၁၈ လဖြစ်ပြီး၊ စာချုပ် (မူကြမ်း) တွင် ၂၄ လ ဖြစ်နေခြင်းအတွက် ပြန်လည်စိစစ်ရန် အချက်နှင့် စပ်လျဉ်း၍ လုပ်ငန်းလိုအပ်ချက်အရ တင်ပြအတည်ပြုချက်ဖြင့် ဆောက်လုပ်ရေးကာလအား စာချုပ် (မူကြမ်း) တွင် ၂၄ လဖြင့် ဖော်ပြခြင်း ဖြစ်ပါကြောင်းနှင့် MOA တွင်လည်း ပြန်လည်ပြင်ဆင်ဆောင်ရွက်ထားပြီး ဖြစ်ပါသည်။

၉။ အကျိုးတူ ပူးပေါင်းဆောင်ရွက်မည့်ကာလ (စာချုပ်သက်တမ်း) သည် MOA တွင် ၃၀ နှစ် + ၁၀ + ၁၀ ဖြစ်ပြီး၊ စာချုပ် (မူကြမ်း) တွင် ကနဦး ၅၀ နှစ် + ၁၀ + ၁၀ ဟု ဖော်ပြခြင်းအတွက် စိစစ်ရန်အချက်နှင့် စပ်လျဉ်း၍ လုပ်ငန်းလိုအပ်ချက်အရ တင်ပြအတည်ပြုချက်ဖြင့် စာချုပ် (မူကြမ်း) တွင် ကနဦး ၅၀ နှစ် + ၁၀ + ၁၀ ဟု ဖော်ပြခြင်း ဖြစ်ပါကြောင်းနှင့် MOA တွင်လည်း ပြန်လည်ပြင်ဆင်ဆောင်ရွက်ထားပြီး ဖြစ်ပါသည်။

၁၀။ စာချုပ် (မူကြမ်း) အပိုဒ် ၁၃ ၌ SHC သည် အကျိုးတူ ပူးပေါင်းဆောင်ရွက်မည့် မြေကို ဥပဒေနှင့်အညီ အကျိုးခံစားခွင့်ရှိသူဖြစ်ကြောင်း ဖော်ပြထားရာ SHC အနေဖြင့် အဆိုပါမြေနေရာကို မြန်မာစီးပွားရေးကော်ပိုရေးရှင်း ထံမှ မည်သို့ ရယူဆောင်ရွက်ထားကြောင်းကို ရှင်းလင်းစွာ ဖော်ပြရန် လိုအပ်ပါသည် ဟူသည့် အချက်နှင့် စပ်လျဉ်း၍ ယင်းမြေသည် မြန်မာစီးပွားရေးကော်ပိုရေးရှင်း ကွပ်ကဲမှုအောက် သင်္ဘောဖျက်စက်ရုံ (သီလဝါ) အမည်ပေါက် ပိုင်ဆိုင်ခြင်းဖြစ်ပြီး၊ SHC သည် MEC ၏ Affiliate Company ဖြစ်ခြင်း၊ Subsidiary ဖြစ်ခြင်းတို့ကြောင့် SHC အနေဖြင့် လက်ဝယ်ထားစီမံခန့်ခွဲခွင့်ရှိသည့် မြေဖြစ်သည်။

၁၁။ စာချုပ် (မူကြမ်း) အရ LPG စီမံကိန်းဖြစ်၍ သတ်မှတ်ထားသည့် ဥပဒေ၊ ပုဒ်မများအရလည်းကောင်း၊ MIC ၏ ၁၀-၄-၂၀၁၇ ရက်စွဲပါ အမိန့်ကြော်ငြာစာအမှတ်၊ ၁၅/၂၀၁၇ အပိုဒ် (ဃ)၊ အစဉ် ၆ (၄) အရ လည်းကောင်း၊ လျှပ်စစ်နှင့် စွမ်းအင်ဝန်ကြီးဌာန၏ အတည်ပြုချက်ရယူရန် လိုအပ်မည်ဟူသည့် အချက်နှင့် စပ်လျဉ်း၍ MIC သို့ တင်ပြချိန်တွင် သတ်မှတ်ညွှန်ကြားချက်အတိုင်း လိုက်နာဆောင်ရွက်သွားပါမည်။

၁၂။ စာချုပ် (မူကြမ်း) ပါ မြန်မာဘာသာနှင့် အင်္ဂလိပ်ဘာသာတို့အကြား ဘာသာပြန်ဆိုမှုကိုက်ညီစေရေးအတွက် ဌာနက တာဝန်ယူစိစစ်ရန်အချက်နှင့် စပ်လျဉ်း၍ လိုက်နာဆောင်ရွက်သွားပါမည်။

# Liquified Petroleum Gas (LPG) တင်သွင်း/ဖြန့်ဖြူးခြင်းလုပ်ငန်းအား အကျိုးတူစီးပွားရေးလုပ်ငန်း ပူးပေါင်းဆောင်ရွက်ရန်အတွက် STAR HIGH Co.,Ltd နှင့် CECA GOLD Co., Ltd တို့အကြား လက်မှတ် ရေးထိုးသည့် သဘောတူညီချက်မှတ်တမ်း

ဤသဘောတူညီချက်မှတ်တမ်း (Memorandum of Agreement) ကို ၂၀၁၇ ခုနှစ်၊ အောက်တိုဘာလ၊ (၁၉) ရက်နေ့၌

(၁) ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်တွင် တည်ဆဲဥပဒေများနှင့်အညီ ဖွဲ့စည်းတည်ထောင်ထားသော ရန်ကုန်တိုင်းဒေသကြီး၊ အမှတ် (၂၄) မင်းကျောင်းလမ်း၊ ဒဂုံမြို့နယ်ရှိ STAR HIGH Co., Ltd (နောင်တွင် "SHC" ဟု ရည်ညွှန်းခေါ်ဆိုမည်ဖြစ်ပြီး အဆိုပါစကားရပ်တွင် ယင်း၏ဆက်ခံသူများ၊ တရားဝင်ကိုယ်စားလှယ်များနှင့် ဥပဒေနှင့်အညီ လွှဲအပ်ခြင်းခံရသူတို့ပါ ပါဝင်စေရမည်) ၏ ကိုယ်စား ဦးဆောင်ညွှန်ကြားရေးမှူး၊ ဦးသန့်ဆွေက တစ်ဖက်

နှင့်

(၂) ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်တွင် တည်ဆဲဥပဒေများနှင့်အညီ ဖွဲ့စည်းတည်ထောင်ထားသော အမှတ်(၁၆၃)၊ (၄၇)လမ်း၊ ဗိုလ်တစ်ထောင်မြို့နယ်၊ ရန်ကုန်မြို့ရှိ ပေးရန်တာဝန်ကန့်သတ်ထားသော အများနှင့်မသက်ဆိုင်သောကုမ္ပဏီ CECA Gold Co.,Ltd. (ကုမ္ပဏီ မှတ်ပုံတင်အမှတ် ၉၇၃ အက်ဖ်စီ ၂၀၁၆-၂၀၁၇ (ရက) (နောင်တွင် "CECA" ဟု ရည်ညွှန်းခေါ်ဆိုမည်ဖြစ်ပြီး အဆိုပါစကားရပ်တွင် ယင်း၏ ဆက်ခံသူများ၊ တရားဝင်ကိုယ်စားလှယ်များနှင့် ဥပဒေနှင့်အညီ လွှဲအပ်ခြင်းခံရသူတို့ပါ ပါဝင်စေရမည်) က အခြားတစ်ဖက်တို့သည် အောက်ဖော်ပြပါ စည်းကမ်း ချက်များနှင့်အညီ သဘောတူစာချုပ် ချုပ်ဆိုကြပါသည်။

စာချုပ်ဝင်တစ်ဖက်ကို "စာချုပ်ဝင်" ဟု ခေါ်ဆိုမည်ဖြစ်ပြီး စာချုပ်ဝင်နှစ်ဖက်ကို "စာချုပ်ဝင်များ" ဟု ခေါ်ဆိုပါမည်။

## ၁။ ရည်ရွယ်ချက်

SHC နှင့် CECA တို့သည် မြန်မာစီးပွားရေးကော်ပိုရေးရှင်း၊ သဘောဖျက်စက်ရုံ(သီလဝါ) ပိုင်မြေ (၂၅)ဧကအနက်မှ (၈)ဧကအကျယ်ရှိ မြေနေရာနှင့် ဆက်စပ်သည့် ကမ်းနားတွင် SHC က ဆိုင်ခံတံတား တည်ဆောက်ပြီး ၎င်းမြေ (၈)ဧက ပေါ်တွင် CECA မှ Liquified Petroleum Gas (LPG) လုပ်ငန်းဆိုင်ရာ စီမံကိန်းနှင့် ပတ်သက်သည့်ဤတွင်ပါဝင်သော စည်းကမ်းချက်များကို အခြေခံ၍ လုပ်ငန်းပူးပေါင်းဆောင်ရွက်မှု သဘောတူညီချက်တွင်ပါဝင်မည့် စည်းကမ်းချက်များ အတိုင်း၊ အကျိုးတူစီးပွားရေးပူးပေါင်း ဆောင်ရွက်ကြရန် ရည်ရွယ်ပါသည်။

၂။ **အကျိုးတူစီးပွားရေးလုပ်ငန်းပူးပေါင်းဆောင်ရွက်မှု**

၂.၁ **အသေးစိတ်အချက်အလက်များ**

စာချုပ်ဝင်များသည် သဘောတူညီချက် လက်မှတ်ရေးထိုးပြီးနောက် အတတ်နိုင်ဆုံး စောလျင်စွာ စီမံကိန်းတည်ဆောက်ရေးနှင့်ဖွံ့ဖြိုးတိုးတက်ရေးအတွက် အတူတကွ ပူးပေါင်းလုပ်ဆောင်ပါမည်ဟု သဘောတူညီကြပါသည်။

၂.၂ **အသုံးချစီမံခန့်ခွဲပိုင်ခွင့်**

၂.၂.၁ SHC အနေဖြင့် CECA အား မြေကိုအသုံးပြုရန် လုပ်ပိုင်ခွင့်အစိတ်အပိုင်းအဖြစ် စီမံကိန်းတည်ဆောက်ရေးအား စီမံခန့်ခွဲရန်၊ တည်ဆောက်ရန်၊ နှင့် စီမံကိန်းအား လည်ပတ်လုပ်ကိုင်ရန် ခွင့်ပြုသည်။

၂.၂.၂ SHC သည် ၎င်းအနေဖြင့် ဤသဘောတူညီချက်အား ချုပ်ဆိုရန်နှင့် ဆောင်ရွက်ရန် တရားဝင်အခွင့်အရေးနှင့် အခွင့်အာဏာနှင့်လုပ်ပိုင်ခွင့် အပြည့်အဝရှိကြောင်း ကိုယ်စားပြုအာမခံပါသည်။

၂.၃ **စာချုပ်ဝင်များ၏ တာဝန်ရှိမှုများ**

စာချုပ်ဝင်နှစ်ဦးစလုံး၏ တာဝန်ရှိမှုများအား ဤကိစ္စအလို့ငှာ ချုပ်ဆိုမည့် လုပ်ငန်းဆိုင်ရာ စာချုပ်တွင် အသေးစိတ် ဖော်ပြရမည်။ စာချုပ်ဝင်များသည် ဤကိစ္စအလို့ငှာ ချုပ်ဆိုမည့်စာချုပ်(များ) ကို ဤသဘောတူညီချက် လက်မှတ်ရေးထိုးသောနေ့မှ (၁)နှစ်အတွင်း (သို့)စာချုပ်ဝင်များအတွင်း အပြန်အလှန်သဘောတူညီထားသည့် ထိုသို့သော အခြားအချိန်အတွင်း လက်မှတ်ရေးထိုးချုပ်ဆိုရန် စာချုပ်ဝင်များမှ သဘောတူညီကြပါသည်။

၂.၃.၁ **SHC ၏တာဝန်များ**

၂.၃.၁.၁ CECA အား အကျိုးတူပူးပေါင်းဆောင်ရွက်မည့် မြေကို လိုအပ်သည်များ ပြင်ဆင်မွမ်းမံဆောင်ရွက်ခွင့် ပြုရမည်။

၂.၃.၁.၂ SHC မှ ၎င်းနီးမြှုပ်နှံမှုအဖြစ် LPG အတင်အချ ပြုလုပ်နိုင်သော ဆိပ်ခံတံတားတစ်ခုအား(၎င်းနီးမြှုပ်နှံ၍)တာဝန်ယူဆောက်လုပ်မည်ဖြစ်ပြီး CECA မှနည်းပညာအကူအညီပေးရမည်။

၂.၃.၁.၃ အကျိုးတူပူးပေါင်းဆောင်ရွက်မည့် မြေပေါ်တွင် လိုအပ်သည့် LPG Tank နှင့်ဆက်စပ်ပစ္စည်းများ တည်ဆောက်ပြီး လုပ်ငန်းလည်ပတ် ဆောင်ရွက်နိုင်ရန် CECA အတွက် လိုအပ်သည့် ဌာနဆိုင်ရာခွင့်ပြုချက်များ၊ အတည်ပြုချက်များ ရရှိအောင် SHC က လိုအပ်သော ကူညီပံ့ပိုးမှုများ ဆောင်ရွက်ပေးရမည်။

၂.၃.၁.၄ CECA ၏ LPG သင်္ဘောများ ဆိပ်ခံတံတားသို့ လာရောက်ဆိုက်ကပ်ချိန်တွင် တံတားကပ်ခ၊ တံတားအသုံးပြုခနှင့် ကုန်တင်ကုန်ချခ စသည်တို့အား မြန်မာ့ဆိပ်ကမ်းအာဏာပိုင်မှ သတ်မှတ်ပြဌာန်းထားသည့် နှုန်းထားအပေါ် (၃%) လျှော့၍ ပေးချေခွင့်ပြုရမည်။

၂.၃.၁.၅ LPG လုပ်ငန်းများဆောင်ရွက်ရန်အတွက် CECA မှ သတ်မှတ်နယ်မြေအတွင်း ခွင့်ပြုချက်အရ လမ်းများ ဖောက်လုပ်စေသည့်အပြင် မြန်မာစီးပွားရေးကော်ပိုရေးရှင်းပိုင် ကွန်ကရစ်လမ်းအား ဖြတ်သန်းသွားလာခွင့်ပြုပေးရမည်။

၂.၃.၁.၆ LPG သိုလှောင်၊ တင်သွင်း၊ ဖြန့်ဖြူးခြင်းလုပ်ငန်း အောင်မြင်စေရေးအတွက် နှစ်ဦးနှစ်ဖက် အကျိုးဖြစ်ထွန်းစေခြင်းကို ရည်ရွယ်သောအားဖြင့် CECA မှ တင်ပြမှုအပေါ် SHC က ဥပဒေနှင့် မဆန့်ကျင်လျှင်သော်လည်းကောင်း၊ အခြားလုပ်ငန်းများအား မထိခိုက်လျှင်သော်လည်းကောင်း တင်ပြမှုအား စိစစ်ဆောင်ရွက်ခွင့်ပြုစေရမည်။

## ၂.၃.၂ CECA ၏တာဝန်များ

၂.၃.၂.၁ စီမံကိန်းလုပ်ငန်းအောင်မြင်စေရန် LPG Tank,Pipe Line,Filling Station များ တည်ဆောက်ခြင်းဖြင့် ရင်းနှီးမြှုပ်နှံရမည်။

၂.၃.၂.၂ စီမံကိန်းလုပ်ငန်း၏ Operation နှင့် ဖြန့်ဖြူးခြင်းလုပ်ငန်းအား တာဝန်ယူဆောင်ရွက်ရမည်။

၂.၃.၂.၃ ဆိပ်ခံတံတားသို့ ဆိုက်ကပ်လာသည့် LPG သင်္ဘောသည် CECA ၏ သင်္ဘောမဟုတ်ပါက မြန်မာ့ဆိပ်ကမ်းအာဏာပိုင်မှ သတ်မှတ်ပြဌာန်းထားသော နှုန်းထားများအတိုင်း ဆိပ်ကမ်းအသုံးပြုခအားလုံးကို SHC သို့ အပြည့်အဝ ပေးသွင်းရမည်။

၂.၃.၂.၄ CECA မှ ခန့်အပ်ထားသည့် ဝန်ထမ်းများ၏ အုပ်ချုပ်မှု၊ စီမံခန့်ခွဲမှု အားလုံးအား တာဝန်ယူ ဆောင်ရွက်ရမည်။

၂.၃.၂.၅ SHC ထံမှ လုပ်ငန်းလိုင်စင်၊ ခွင့်ပြုချက်များရယူ၍ LPG များတင်သွင်းရေး စီမံဆောင်ရွက်သွားရမည်။

၂.၃.၂.၆ LPG များ တင်သွင်းခြင်း နှင့် ဖြန့်ဖြူးခြင်း လုပ်ငန်းများအား သက်ဆိုင်ရာ အစိုးရဌာနများ၏သတ်မှတ်ချက်၊လုပ်ထုံးလုပ်နည်းများနှင့်အညီ ဆောင်ရွက် ရမည်။

၂.၃.၂.၇ SHC မှ တင်သွင်းလာသည့် LPG များအား လုပ်ငန်းလိုအပ်ချက်အရ CECA ၏ LPG Tank တွင် ထည့်သွင်းရန် လိုအပ်ပါက ပြင်ပဥ္စဖြစ်ပေါ်နေသည့် ဈေးရမ်း ထည့်သွင်း သိုလှောင်ခ နှုန်းထား၏ (၁၀%) ကို လျှော့ပေါ့ ခွင့်ပြုပေးရမည်။

၂.၃.၂.၈ CECA မှ ဈေးကွက်သို့ LPG များ ဖြန့်ဖြူးရာတွင် MEC နှင့် SHC မှ လုပ်ငန်းလိုအပ်ချက်ရှိ၍ ဝယ်ယူရန်လိုအပ်ပါက CECA မှ ရောင်းချမည့် ပြင်ပပေါက်ဈေးနှုန်းထက် (၃%) လျှော့ပေါ့၍ ရောင်းချပေးရမည်။

၂.၃.၂.၉ အနာဂတ်ဈေးကွက်လိုအပ်ချက် နှင့်အညီ လျာထားချက်ပါအတိုင်း LPG Tank များ ထပ်မံတိုးချဲ့တည်ဆောက်လုပ်ကိုင်ခွင့်အား MEC သို့တင်ပြညှိနှိုင်းဆောင်ရွက်ရမည်။

၂.၃.၂.၁၀ SHCမှဆိပ်ခံတံတား(Jetty)ဆောက်လုပ်ရာတွင် နည်းပညာအကူအညီပေးရမည်။

၂.၃.၂.၁၁ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုများပါဝင်လာပါက ရင်းနှီးမြှုပ်နှံမှုကုမ္ပဏီ၏ အချက်အလက်များအား SHC သို့ တင်ပြပြီး အတည်ပြုချက်ရယူ၍ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုကုမ္ပဏီ၊ CECA နှင့် MEC တို့သုံးပွင့်ဆိုင် လက်မှတ်ရေးထိုးရမည်။

## ၂.၄ အကျိုးတူပူးပေါင်းဆောင်ရွက်မည့်ကာလ

အကျိုးတူပူးပေါင်းဆောင်ရွက်မည့်ကာလသည် LPG Tank နှင့်ဆက်စပ်ပစ္စည်းများ တည်ဆောက်မည့်မြေကို လွှဲပြောင်းလုပ်ငန်းစတင်သည့်နေ့မှစ၍ ကနဦး နှစ်ပေါင်း(၅၀)နှင့် ကနဦးသက်တမ်းကာလကုန်ဆုံးချိန်တွင် ထပ်မံညှိနှိုင်းပြီး သက်တမ်းတိုးကာလ (၁၀)နှစ် + (၁၀)နှစ် (၂)ကြိမ်သက်တမ်းတိုးပိုင်ခွင့်ရှိကြောင်း စာချုပ်ဝင်များမှ သဘောတူညီကြပါသည်။

## ၃။ ဆောက်လုပ်ရေးကာလ

အကျိုးတူ လုပ်ငန်းဆိုင်ရာ စာချုပ်ကို နှစ်ဖက်လက်မှတ်ရေးထိုးပြီး ဆောက်လုပ်ရေးစတင်သည့်နေ့ရက်မှ (၂၄) လ ကာလအား အဆိုပါမြေတွင် LPG နှင့် စပ်လျဉ်းသည့် ဆောက်လုပ်ရေးလုပ်ငန်းများ ပြီးစီးအောင် CECA မှ ဆောင်ရွက်ရမည်။

## ၄။ အကျိုးတူစီးပွားရေးလုပ်ငန်းပူးပေါင်းလုပ်ဆောင်မည့် ရင်းနှီးမြှုပ်နှံမှုတန်ဖိုး

SHC က မြေအသုံးချစီမံခန့်ခွဲခွင့် နှင့် ဆိပ်ခံတံတား တည်ဆောက်ခြင်းတို့အား ရင်းနှီးမြှုပ်နှံအဖြစ်ထည့်ဝင်မည်ဖြစ်ပြီး CECA မှ LPG Tank, Pipeline, Filling Station များ တည်ဆောက်ခြင်းအတွက် အမေရိကန်ဒေါ်လာ (၂၀,၀၀၀,၀၀၀) (အမေရိကန်ဒေါ်လာသန်းနှစ်ဆယ်တိတိ) ရင်းနှီးမြှုပ်နှံ ပါမည်။

## ၅။ ရင်းနှီးမြှုပ်နှံမှုထည့်ဝင်သည့်အချိုး

ဤစီမံကိန်းလုပ်ငန်း အကောင်အထည်ဖော်ဆောင်ရွက်ရန်အတွက် ရင်းနှီးမြှုပ်နှံမှုအချိုးမှာ SHC ၅၁% နှင့် CECA ၄၉% ဖြစ်သည်။

၆။ **Signature Bonus ပေးသွင်းခြင်း**

CECA မှ SHC အား စာချုပ်လက်မှတ်ရေးထိုးချိန်မှငွေ Signature Bonus အဖြစ် စုစုပေါင်း အမေရိကန်ဒေါ်လာ (၅၀၀,၀၀၀) (အမေရိကန်ဒေါ်လာငါးသိန်း)အား သဘောတူညီချက်မှတ်တမ်း လက်မှတ်ရေးပြီးချိန်မှ (၁)လ အတွင်း ပေးသွင်းရမည်။

၇။ **မြေအသုံးပြုခပေးသွင်းခြင်း**

CECA အနေဖြင့် မြေအသုံးပြုခအား ၁ စတုရန်းမီတာလျှင် အမေရိကန်ဒေါ်လာ (၄.၅ဒေါ်လာ) နှုန်းဖြင့်(၈ ဧက= ၃၂၃၇၁.၆၉ စတုရန်းမီတာ)အတွက် တစ်နှစ်လျှင် စုစုပေါင်းအမေရိကန်ဒေါ်လာ (၁၄၅၆၇၂.၆၁)(အမေရိကန်ဒေါ်လာ တစ်သိန်းလေးသောင်းငါးထောင် ခြောက်ရာခုနစ်ဆယ့်နှစ် ဒသမခြောက်ဆယ့်တစ်တိတိ) အား တွက်ချက်၍ ဆောက်လုပ်ရေးကာလ ပြီးဆုံးသည့်နေ့မှစ၍ တစ်လအတွင်း ထိုဘဏ္ဍာနှစ်အတွက် ပေးသွင်းရမည်။

၈။ **အရင်းကြေကာလနှင့် အကျိုးအမြတ်ခွဲဝေခြင်း**

၈.၁ **အရင်းကြေကာလ**

အရင်းကြေကာလကို (၁၂)နှစ် သတ်မှတ်မည်။

၈.၂ **အကျိုးအမြတ်ခွဲဝေခြင်း**

(က) အရင်းကြေကာလအတွင်း (၁)နှစ် မှ (၅)နှစ် အထိတစ်နှစ်လျှင် အမေရိကန် ဒေါ်လာ (၁၀၀,၀၀၀)(အမေရိကန်ဒေါ်လာတစ်သိန်းတိတိ)ကို CECA မှ SHC သို့ပေးသွင်းရမည်။

(ခ) အရင်းကြေကာလအတွင်း (၆)နှစ် မှ (၁၀)နှစ် အထိ တစ်နှစ်လျှင် အမေရိကန်ဒေါ်လာ (၁၅၀,၀၀၀) (အမေရိကန်ဒေါ်လာတစ်သိန်းငါးသောင်းတိတိ)ကို CECA မှ SHC သို့ပေးသွင်းရမည်။

(ဂ) အရင်းကြေကာလအတွင်း (၁၁)နှစ်မှ (၁၂) နှစ်အထိ တစ်နှစ်လျှင် အမေရိကန်ဒေါ်လာ (၂၀၀,၀၀၀) (အမေရိကန်ဒေါ်လာနှစ်သိန်းတိတိ)ကို CECA မှ SHC သို့ပေးသွင်းရမည်။

(ဃ) အရင်းကြေကာလ ပြည့်မြောက်ပြီးလျှင် စာချုပ်ပါသက်တမ်းအတိုင်း နှစ်စဉ် အမေရိကန် ဒေါ်လာ (၂၅၀,၀၀၀) (အမေရိကန်ဒေါ်လာနှစ်သိန်းငါးသောင်းတိတိ)ကို CECA မှ SHC သို့ပေးသွင်းရမည်။

၉။ ဒဏ်ကြေး

၉.၁ Signature Bonus အား သတ်မှတ်ကာလအတွင်း ပေးသွင်းနိုင်ခြင်း မရှိပါက ဒဏ်ကြေးအဖြစ် (၁)လလျှင် ပေးသွင်းရမည့်တန်ဖိုး၏(၀.၁%)အား ဒဏ်ကြေးအဖြစ် အပြေအကျေ ပေးသွင်းနိုင်သည့်ကာလအထိ လအလိုက် ထပ်ဆောင်းပေးချေရမည်။

၉.၂ သဘောတူစာချုပ် လက်မှတ်ရေးထိုးသည့်နေ့မှစ၍ (၂၄) လ ပြည့်ပြီးချိန်တွင် လုပ်ငန်းလည်ပတ်နိုင်ခြင်း မရှိလျှင်သော်လည်းကောင်း၊ အထက်အပိုဒ်(၇)၊ အပိုဒ်(၈.၂)တို့ပါ ငှားရမ်းခနှင့် အကျိုးအမြတ်တို့အား ပေးသွင်းရန် စေ့ရောက်သည့်နေ့တွင် ပေးသွင်းနိုင်ခြင်း မရှိလျှင်သော်လည်းကောင်း ဒဏ်ကြေးအဖြစ် (၁)လလျှင် ပေးသွင်းရမည့်တန်ဖိုး၏(၀.၁%)အား ဒဏ်ကြေးအဖြစ် အပြေအကျေ ပေးသွင်းနိုင်သည့် ကာလအထိ လအလိုက် ထပ်ဆောင်းပေးချေရမည်။

၁၀။ ပြန်လည်ညှိနှိုင်းဆွေးနွေးခြင်း

ဤသဘောတူညီချက် ချုပ်ဆိုစဉ်က အခြေအနေနှင့် မတူညီသောအခြေအနေတစ်ရပ်ရပ် ဖြစ်ပေါ်လာပါက စာချုပ်ဝင်နှစ်ဦးနှစ်ဖက်တို့သည် ပြန်လည်ညှိနှိုင်းဆွေးနွေးပြီး လိုအပ်သော စာချုပ်ပြင်ဆင်မှုများ ပြုလုပ်နိုင်သည်။

၁၁။ သဘောတူညီချက်သက်တမ်း

ဤသဘောတူညီချက်၏ သက်တမ်းသည် (၁)နှစ် ဖြစ်သည်။

၁၂။ အာမခံခြင်းနှင့်ကိုယ်စားပြုခြင်း

ဤသဘောတူညီချက် လက်မှတ်ရေးထိုးကြမည့် စာချုပ်ဝင်များအနက် SHC သည် အကျိုးတူပူးပေါင်းဆောင်ရွက်မည့်မြေကို လက်ရှိပိုင်ဆိုင်ကြောင်းနှင့် LPG နှင့် ဆက်စပ်လုပ်ငန်းများ တည်ဆောက်ခြင်းအတွက် ရင်းနှီးမြှုပ်နှံသူ CECA သည် ဤသဘောတူညီချက်ပါ လုပ်ငန်းများကို လုပ်ကိုင်ရန် ငွေကြေးအင်အား ပြည့်စုံသူဖြစ်ပါသည်။ ဤသဘောတူညီချက်ကို လက်မှတ်ရေးထိုးမည့်သူများသည် လက်မှတ်ရေးထိုးရန် အခွင့်အာဏာရှိသူများဖြစ်ကြောင်း အာမခံကြပါသည်။

၁၃။ အထွေထွေ

ဤသဘောတူစာချုပ်ကို အင်္ဂလိပ်/မြန်မာ နှစ်ဘာသာဖြင့် ချုပ်ဆိုပါမည်။

၁၃.၁ ဤသဘောတူညီချက်သည် စာချုပ်ဝင်များအပေါ် တရားဝင်စည်းနှောင်မှုရှိသော တာဝန်ရှိမှုများကို ဖြစ်ပေါ်စေခြင်း၊ သက်ရောက်မှုရှိစေခြင်း နှင့် ဖွဲ့စည်းပါဝင်ခြင်းတို့ ဖြစ်စေရန် ရည်ရွယ်ပါသည်။

၁၃.၂ ဤသဘောတူညီချက်ကို အင်္ဂလိပ်၊ မြန်မာနှစ်ဘာသာဖြင့်ချုပ်ဆိုမည်ဖြစ်၍ မြန်မာဘာသာနှင့် အင်္ဂလိပ်ဘာသာတို့အကြား ကွဲလွဲမှုတစ်စုံတစ်ရာ ဖြစ်ပေါ်သည့် အခြေအနေမျိုးတွင် အင်္ဂလိပ်ဘာသာမှ လွှမ်းမိုးမှုရှိစေရမည်။

၁၄။ **နောက်ဆက်တွဲဇယား**

ဤသဘောတူညီချက်ပါ နောက်ဆက်တွဲများသည် ဤသဘောတူညီချက်၏ အရေးကြီးသော အစိတ်အပိုင်း တစ်ရပ် ဖြစ်ပါသည်။

၁၅။ **လွှမ်းမိုးဥပဒေ**

ဤသဘောတူညီချက်အား မြန်မာနိုင်ငံ၏ တည်ဆဲဥပဒေများက လွှမ်းမိုးပြီး အဆိုပါ ဥပဒေများနှင့် အညီ အဓိပ္ပါယ်ကောက်ယူမည်။

၁၆။ **ဆက်သွယ်ရန်လိပ်စာ**

စာများကို မှတ်ပုံတင်စာဖြင့်ဖြစ်စေ၊ လေကြောင်းဖြင့်ဖြစ်စေ၊ စာပို့သမားဖြင့်ဖြစ်စေ၊ အမြန်ချောပို့ဖြင့်ဖြစ်စေ၊ တယ်လီဖုန်းဖြင့်ဖြစ်စေ၊ အီးမေးလ်ဖြင့်ဖြစ်စေ (သို့) ဖက်(စ်)ဖြင့်ဖြစ်စေ အောက်ဖော်ပြပါ လိပ်စာများသို့ မြန်မာ (သို့) အင်္ဂလိပ်ဘာသာဖြင့် ပေးပို့ရမည်ဖြစ်သည်။ အကယ်၍ လိပ်စာ ပြောင်းလဲပါက စာချုပ်ဝင် နှစ်ဦးနှစ်ဖက်တို့သည် တစ်ဦးနှင့်တစ်ဦး အကြောင်းကြားရမည် -

STAR HIGH Co., Ltd

| | | |
|---|---|---|
| လိပ်စာ | : | ရန်ကုန်တိုင်းဒေသကြီး၊ အမှတ် (၂၄) မင်းကျောင်းလမ်း၊ ဒဂုံမြို့နယ် |
| ဖုန်းနံပါတ် | : | ၀၁-၂၂၁၈၃၃ |
| ဖက်(စ်)နံပါတ် | : | ၀၁-၂၂၁၆၈၈ |
| လိပ်မူ၍ | : | ဦးဆောင်ညွှန်ကြားရေးမှူး |

CECA GOLD Co., Ltd.

| | | |
|---|---|---|
| လိပ်စာ | : | ရန်ကုန်တိုင်းဒေသကြီး၊ ဗိုလ်တစ်ထောင်မြို့နယ်၊ ၄၇ လမ်း၊အမှတ်(၁၆၃) |
| ဖုန်းနံပါတ် | : | ၀၁-၃၉၇၆၅၁ |
| ဖက်(စ်)နံပါတ် | : | ၀၁-၂၉၈၁၉၉ |
| လိပ်မူ၍ | : | ဒါရိုက်တာ |

အထက်ဖော်ပြပါ စည်းကမ်းချက်များကို စာချုပ်ဝင်နှစ်ဖက်တို့ လက်ခံသဘောတူကြပြီး အောက်ပါ အသိသက်သေများ ရှေ့မှောက်တွင် ဤသဘောတူညီချက်ကို လက်မှတ်ရေးထိုး တံဆိပ်ရိုက်နှိပ်၍ စာချုပ် ချုပ်ဆိုကြပါသည်။

| STAR HIGH Co.,Ltd | CECA GOLD Co., Ltd. |
|---|---|
| (ကိုယ်စား) | (ကိုယ်စား) |

| | | | |
|---|---|---|---|
| အမည် | ၊ ဦးသန့်ဆွေ | အမည် | ၊ ဦးသန်းအောင် |
| ရာထူး | ၊ ဦးဆောင်ညွှန်ကြားရေးမှူး | ရာထူး | ၊ မန်နေဂျင်းဒါရိုက်တာ |
| မှတ်ပုံတင်အမှတ် | ၊ ၁၂/မဂဒ(နိုင်)၀၁၀၈၉၉ | မှတ်ပုံတင်အမှတ် | ၊ ၁၂/ပဘတ(နိုင်)၁၀၆၈၀၁ |
| ဌာန | ၊ STAR HIGH Co.,Ltd | ဌာန | ၊ CECA GOLD Co.,Ltd. |
| ရက်စွဲ | ၊ ၁၉-၁၀-၂၀၁၇ | ရက်စွဲ | ၊ ၁၉-၁၀-၂၀၁၇ |

**အသိသက်သေများ**

| | | | |
|---|---|---|---|
| အမည် | ၊ ဦးဝင်းကြည် | အမည် | ၊ ဦးကျော်ဇေယျ |
| ရာထူး | ၊ ဒါရိုက်တာ | ရာထူး | ၊ အထွေထွေမန်နေဂျာ |
| မှတ်ပုံတင်အမှတ် | ၊ ၃/ဘအန(နိုင်)၀၂၀၀၆၇ | မှတ်ပုံတင်အမှတ် | ၊ ၁၄/ကပန(နိုင်)၀၀၁၀၄၀ |
| ဌာန | ၊ STAR HIGH Co.,Ltd | ဌာန | ၊ CECA GOLD Co.,Ltd. |
| ရက်စွဲ | ၊ ၁၉-၁၀-၂၀၁၇ | ရက်စွဲ | ၊ ၁၉-၁၀-၂၀၁၇ |

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ

ပြည်ထောင်စုရှေ့နေချုပ်ရုံး

ဥပဒေအကြံဉာဏ်ပေးရေးဦးစီးဌာန

စာအမှတ်၊ ၂(၅) ၁၅ - ၁ / နပတ( ၂၈၃ )

ရက်စွဲ၊ ၂၀၁၈ ခုနှစ်၊ မတ်လ ၃ ရက်

အကြောင်းအရာ။ မြန်မာစီးပွားရေးကော်ပိုရေးရှင်း၊ STAR HIGH Co., Ltd နှင့် CECA GOLD Co., Ltd တို့ချုပ်ဆိုမည့် အကျိုးတူစီးပွားရေးပူးပေါင်းဆောင်ရွက်မှု သဘောတူစာချုပ်(မူကြမ်း)အား စိစစ်အကြံပြုပေးနိုင်ပါရန် တင်ပြလာခြင်းကိစ္စ

ရည် ညွှန်း ချက် ။ (၁) ကာကွယ်ရေးဦးစီးချုပ်ရုံး(ကြည်း) စစ်ထောက်ချုပ်ရုံး၊ မြန်မာစီးပွားရေးကော်ပိုရေးရှင်း၏ ၇-၂-၂၀၁၈ ရက်စွဲပါစာအမှတ်၊ ၄၀ / ၄၀ / ၀၈ / မစက

(၂) ပြည်ထောင်စုရှေ့နေချုပ်ရုံး၊ ဥပဒေအကြံဉာဏ်ပေးရေးဦးစီးဌာန၏ ၁၉-၂-၂၀၁၈ ရက်စွဲပါစာအမှတ်၊ ၂(၅) ၁၅-၁/ နပတ(၂၀၁)

(၃) ကာကွယ်ရေးဦးစီးချုပ်ရုံး(ကြည်း)၊ စစ်ထောက်ချုပ်ရုံး၊ မြန်မာစီးပွားရေးကော်ပိုရေးရှင်း၏ ၂၁-၂-၂၀၁၈ ရက်စွဲပါစာအမှတ်၊ ၁၀/၁၀ / ၄၃ / မစက (စီမံကိန်း)

၁။ မြန်မာစီးပွားရေးကော်ပိုရေးရှင်း၊ သဘော်ဖျက်စက်ရုံ(သီလဝါ)ရှိ မြေ(၈) ဧကနှင့် ဆက်စပ်သည့်ကမ်းနားတွင် ဆိပ်ခံတံတားတည်ဆောက်၍ LPG တင်သွင်း/ ဖြန့်ဖြူးခြင်းလုပ်ငန်းအား မြန်မာ့စီးပွားရေးကော်ပိုရေးရှင်း၊ STAR HIGH Co., Ltd (SHC) နှင့် CECA GOLD Co., Ltd (CECA) တို့ ချုပ်ဆိုမည့် အကျိုးတူစီးပွားရေးပူးပေါင်းဆောင်ရွက်မှု သဘောတူစာချုပ်(မူကြမ်း)အပေါ် စိစစ်အကြံပြုပေးနိုင်ပါရန် ရည်ညွှန်းချက်(၁)ပါစာဖြင့် တင်ပြလာသောကိစ္စဖြစ်ပါသည်။

၂။ ရည်ညွှန်းချက်(၁)ပါစာဖြင့် ပေးပို့လာသော စာချုပ်(မူကြမ်း)၏ အပိုဒ် ၁.၂ ၌ ဖော်ပြချက်အရ စာချုပ်(မူကြမ်း)ပါ စီမံကိန်းဆောင်ရွက်မည့် မြေနေရာနှင့် စပ်လျဉ်း၍ SHC နှင့် CECA တို့အကြား လုပ်ငန်းဆိုင်ရာစီမံကိန်းကို အကောင်အထည်ဖော်ရန်အတွက် သဘောတူညီ



၁ / ၁၃

ချက်မှတ်တမ်းကို ၁၉-၁၀-၂၀၁၇ ရက်နေ့တွင် လက်မှတ်ရေးထိုးခဲ့ကြောင်း၊ အဆိုပါ သဘောတူညီချက်မှတ်တမ်းကိုအခြေခံ၍ လုပ်ငန်းပူးပေါင်းဆောင်ရွက်မှု သဘောတူစာချုပ် ချုပ်ဆိုရန် ရည်ရွယ်သည့်အလျောက် ဤသဘောတူစာချုပ်ကို ချုပ်ဆိုကြကြောင်း ဖော်ပြထားသည်ကို တွေ့ရှိရပါသည်။ သို့ပါ၍ ပေးပို့လာသော စာချုပ်(မူကြမ်း)အား ဥပဒေကြောင်းအရ စိစစ်ပြန်ကြားပေးနိုင်ရန်အတွက် ၁၉-၁၀-၂၀၁၇ ရက်နေ့တွင် လက်မှတ်ရေးထိုးထားသော သဘောတူညီချက်မှတ်တမ်း (မိတ္တူ)အား ပြန်ထောင်စုရှေ့နေချုပ်ရုံး၊ ဥပဒေအကြံဉာဏ်ပေးရေးဦးစီးဌာန၊ စီးပွားရေးစာချုပ်စာတမ်းဌာနခွဲသို့ ပေးပို့ပေးပါရန် ရည်ညွှန်းချက်(၂)ပါစာဖြင့် ညှိနှိုင်းအကြောင်းကြားခဲ့ပါသည်။

၃။ ရည်ညွှန်းချက်(၂)ပါစာဖြင့် ညှိနှိုင်းအကြောင်းကြားချက်အရ ၁၉-၁၀-၂၀၁၇ ရက်နေ့က စစ်ထောက်ချုပ်ရုံး၊ မြန်မာစီးပွားရေးကော်ပိုရေးရှင်း၊ STAR HIGH Co., Ltd နှင့် CECA GOLD Co., Ltd တို့ ချုပ်ဆိုထားသော သဘောတူညီချက်မှတ်တမ်း( MOA)အား ရည်ညွှန်းချက်(၃)ပါစာဖြင့် ပေးပို့လာပါသည်။

၄။ ရည်ညွှန်းချက်(၁)ပါစာနှင့်အတူ အင်္ဂလိပ်၊ မြန်မာနှစ်ဘာသာဖြင့် ပြုစုထားသော စာချုပ်(မူကြမ်း)(၃)စုံစီပေးပို့လာပါသည်။ စာချုပ်(မူကြမ်း)အပိုဒ် ၁၈.၂ နှင့် ၂၈.၁ တို့၌ စာချုပ်နှစ်ရပ်ကြား သဘောထားကွဲလွဲမှုတစ်စုံတစ်ရာ ပေါ်ပေါက်လာပါက မြန်မာဘာသာဖြင့် ချုပ်ဆိုထားသော စာချုပ်သည်အတည်ဖြစ်ကြောင်း ဖော်ပြထား၍ မြန်မာဘာသာဖြင့် ချုပ်ဆိုသော စာချုပ်(မူကြမ်း)အား စိစစ်ပြန်ကြားပေးလိုက်ပါသည်။

၅။ ရည်ညွှန်းချက်(၁)ပါစာနှင့်အတူ ပေးပို့လာသော အကျိုးတူစီးပွားရေးလုပ်ငန်းပူးပေါင်းဆောင်ရွက်ခြင်း သဘောတူစာချုပ်(မူကြမ်း)အား အောက်ပါအတိုင်း လေ့လာစိစစ်အပ်ပါသည်-

(က) ရည်ညွှန်းချက်(၁)နှင့် (၃)ပါစာတို့၌ မြန်မာစီးပွားရေးကော်ပိုရေးရှင်း၊ STAR HIGH Co., Ltd နှင့် CECA GOLD Co., Ltd တို့ ချုပ်ဆိုမည့် အကျိုးတူစီးပွားရေးလုပ်ငန်း ပူးပေါင်းဆောင်ရွက်ခြင်း သဘောတူစာချုပ်ဟု ဖော်ပြထားပါသည်။ သို့သော် စာချုပ်(မူကြမ်း)၏ စာချုပ်ဝင်စာပိုဒ်၌ မြန်မာစီးပွားရေးကော်ပိုရေးရှင်းသည် စာချုပ်ဝင်အဖြစ်ပါဝင်ခြင်းမရှိဘဲ SHC နှင့် CECA တို့

သာ စာချုပ်ဝင်များအဖြစ် ပါဝင်ချုပ်ဆိုမည်ဖြစ်ကြောင်း တွေ့ရှိရပါသည်။ ထို့အပြင် မြန်မာစီးပွားရေးကော်ပိုရေးရှင်းနှင့် SHC တို့သည် မည်သို့ ဆက်စပ်ပတ်သက်မှုရှိကြောင်း ရှင်းလင်းဖော်ပြထားခြင်း မရှိသည့်အတွက် မည်သို့ ဆက်စပ်မှုရှိကြောင်း စာချုပ်ချုပ်ဆိုချိန်၌ ရှင်းလင်းဖော်ပြရန် လိုအပ်ပါသည်၊

(ခ) စာချုပ်(မူကြမ်း)ပါ "စီမံကိန်း" အဓိပ္ပာယ်ဖွင့်ဆိုချက်တွင် သီလဝါရှိ မြန်မာစီးပွားရေးကော်ပိုရေးရှင်းပိုင် (၈)ဧက အကျယ်ရှိမြေနေရာနှင့် ဆက်စပ်သည့်ကမ်းနားနယ်တွင် SHC မှ ဆိပ်ခံတံတားတည်ဆောက်ပြီး ၎င်းမြေ(၈) ဧကပေါ်တွင် CECA မှ Liquified Petroleum Gas(LPG)လုပ်ငန်းဆိုင်ရာ စီမံကိန်းကိုဆိုလိုသည်ဟု ဖော်ပြထားပါသည်။ ရည်ညွှန်းချက်(၃)ပါ စာနှင့် အတူ ပေးပို့လာသော SHC နှင့် CECA တို့အကြား ချုပ်ဆိုသည့် MOA (မိတ္တူ)၏ အပိုဒ် ၁၂ ၌ SHC သည် အကျိုးတူပူးပေါင်း ဆောင်ရွက်မည့် မြေကို လက်ရှိပိုင်ဆိုင်ကြောင်း ဖော်ပြထားပါသည်။ သို့ဖြစ်ရာ စာချုပ်(မူကြမ်း)ပါ စီမံကိန်းဆောင်ရွက်မည့် မြေနေရာသည် မြန်မာစီးပွားရေး ကော်ပိုရေးရှင်းနှင့် SHC တို့အကြား မည်သူကပိုင်ဆိုင်ကြောင်း ရှင်းလင်းမှု မရှိပါ။ SHC အနေဖြင့် မြေငှားရမ်းသူအနေအထားတွင်ရှိပါက ယခုစာချုပ်(မူကြမ်း)ပါ အကျိုးတူပူးပေါင်းဆောင်ရွက်မှု လုပ်ငန်းကို ဆောင်ရွက်နိုင်မည် မဟုတ်ပါကြောင်း အကြံပြုအပ်ပါသည်၊

(ဂ) ယခုစာချုပ်(မူကြမ်း)သည် MEC ပါဝင်သည့် စာချုပ် သို့မဟုတ် အစိုးရဌာန ပါဝင်ခြင်းမရှိသည့် ပုဂ္ဂလိကကုမ္ပဏီအချင်းချင်း ချုပ်ဆိုမည့် စာချုပ်(မူကြမ်း) ပုံစံဖြစ်နေပါသဖြင့် ရှင်းလင်းစွာဖော်ပြရန်လိုအပ်ကြောင်း တွေ့ရှိရပါသည်။ ပြည်ထောင်စုရှေ့နေချုပ်ရုံးအနေဖြင့် ပုဂ္ဂလိကကုမ္ပဏီအချင်းချင်း ချုပ်ဆိုမည့် စာချုပ်(မူကြမ်း)များကို စိစစ်ပြန်ကြားခြင်းမရှိပါ။ ပြည်ထောင်စုရှေ့နေချုပ်

နည်းဥပဒေအပိုဒ် ၄၉(ခ) အရ အစိုးရဌာနပါဝင်သော စာချုပ်(မူကြမ်း)ကိုသာ စိစစ်ခြင်းဖြစ်ပါကြောင်း ဖော်ပြအပ်ပါသည်၊

၆။ MEC ဆက်စပ်ပါဝင်သော စာချုပ်ဖြစ်ပါက အောက်ပါအတိုင်း စိစစ်ကြံပြုအပ်ပါသည်-

(က) စာချုပ်(မူကြမ်း)အပိုဒ် ၂.၄ SHC ၏ တာဝန်များ အပိုဒ်ခွဲ ၂.၄.၄ ၌ CECA ၏ LPG သင်္ဘောများ၊ ဆိပ်ခံတံတားသို့လာရောက်ဆိုက်ကပ်ချိန်တွင် တံတားကပ်ခ၊ တံတားအသုံးပြုခနှင့် ကုန်တင်ကုန်ချခစသည်တို့အား မြန်မာ ဆိပ်ကမ်းအာဏာပိုင်မှ သတ်မှတ်ပြဋ္ဌာန်းထားသည့် နှုန်းထားအပေါ် ၃% လျော့၍ ပေးချေခွင့်ပြုရမည်ဟု ဖော်ပြထားပါသည်။ ယင်းဖော်ပြချက်နှင့် စပ်လျဉ်း၍ မြန်မာဆိပ်ကမ်းအာဏာပိုင်နှင့် ညှိနှိုင်းဆောင်ရွက်ရန်ဖြစ်ပါသည်၊

(ခ) စာချုပ်(မူကြမ်း)၌ စာချုပ်(မူကြမ်း)ပါ စီမံကိန်းဆောင်ရွက်မည့် မြေ၏ မြေခွန်အားမည်သူက ပေးဆောင်မည်ဖြစ်ကြောင်း ဖော်ပြထားခြင်းမရှိ၍ ဖော်ပြရန်လိုအပ်ပါသည်၊

(ဂ) စာချုပ်(မူကြမ်း) အပိုဒ် ၂.၅ CECA ၏ တာဝန်များ အပိုဒ်ခွဲ ၂. ၅. ၆ ၌ ဖော်ပြထားသော LPG Tank များ ထပ်မံတိုးချဲ့တည်ဆောက်လုပ်ကိုင်ခွင့်နှင့် စပ်လျဉ်း၍ မြန်မာစီးပွားရေးကော်ပိုရေးရှင်း၊ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်နှင့် လျှပ်စစ်နှင့် စွမ်းအင်ဝန်ကြီးဌာနသို့ တင်ပြ၍ အတည်ပြုချက် ရရှိပြီးမှသာလျှင် ဆောင်ရွက်မည်ဟု ပြင်ဆင်ဖော်ပြရန်ဖြစ်ပါသည်၊

(ဃ) စာချုပ်(မူကြမ်း)အပိုဒ် ၂. ၅. ၁၃ တွင် CECA သည် MIC ခွင့်ပြုချက်ရရှိ၍ စာချုပ်စတင် လက်မှတ်ရေးထိုးပြီးနောက် တည်ဆောက်ရေးကာလ ၂၄ လ ပြည့်ပြီးချိန်တွင် LPG ပေးသွင်း/ ဖြန့်ဖြူးခြင်းလုပ်ငန်းများ လည်ပတ်နိုင်ရေး တာဝန်ယူဆောင်ရွက်ရမည်ဟု ဖော်ပြထားကြောင်း တွေ့ရှိရပါသည်။ SHC နှင့် CECA တို့ချုပ်ဆိုခဲ့သည့် MOA အပိုဒ် ၃ ၌ အကျိုးတူလုပ်ငန်းဆိုင်ရာ

စာချုပ်ကို နှစ်ဖက်လက်မှတ်ရေးထိုးပြီး ဆောက်လုပ်ရေးစတင်သည့် နေ့ရက်မှ (၁၈)လ ကာလအား အဆိုပါမြေတွင် LPG နှင့် စပ်လျဉ်းသည့် ဆောက်လုပ်ရေး လုပ်ငန်းများပြီးစီးအောင် CECA မှ ဆောင်ရွက်မည်ဟု ဖော်ပြထားပါသည်။ MOA အား ၁၉-၁၀-၂၀၁၇ ရက်နေ့၌ ချုပ်ဆိုခဲ့သဖြင့်လည်းကောင်း၊ အဆိုပါ MOA ၌ ဆောက်လုပ်ရေးကာလအား (၁၈)လဟု ဖော်ပြထားသဖြင့် လည်းကောင်း ယခုစာချုပ်(မူကြမ်း)ပါ တည်ဆောက်ရေးကာလ(၂၄)လနှင့် စပ်လျဉ်း၍ ပြန်လည်စိစစ်ရန်လိုအပ်ပါသည်၊

(င) စာချုပ်(မူကြမ်း)အပိုဒ် ၃ ၌ အကျိုးတူပူးပေါင်းဆောင်ရွက်မည့် ကာလသည် ဤစာချုပ်လက်မှတ်ရေးထိုးသောနေ့တွင် ဥပဒေနှင့်အညီ လွှဲပြောင်းလုပ်ငန်း စတင်သည့် နေ့ သို့မဟုတ် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ခွင့်ပြုမိန့် ရရှိသည့် နေ့မှစတင်၍ ကနဦးနှစ်(၅၀)နှင့် (၁၀)နှစ် (၂)ကြိမ် သက်တမ်း တိုးခွင့်ရှိကြောင်း၊ SHC နှင့် CECA တို့ ချုပ်ဆိုသည့် MOA အပိုဒ် ၂.၄ ၌ အကျိုးတူပူးပေါင်းဆောင်ရွက်မည့်ကာလသည် မြေကို လွှဲပြောင်းလုပ်ငန်း စတင်သည့်နေ့မှစ၍ ကနဦးနှစ်(၃၀)နှင့် (၁၀)နှစ် (၂)ကြိမ် သက်တမ်းတိုးခွင့် ရှိကြောင်း ဖော်ပြထားပါသည်။ ယခုစာချုပ်(မူကြမ်း)သည် အဆိုပါ MOA ကို အခြေခံ၍ ချုပ်ဆိုမည့် စာချုပ်ဖြစ်သောကြောင့် အကျိုးတူပူးပေါင်း ဆောင်ရွက်မည့်ကာလသည် MOA ၌ ဖော်ပြထားသည့် ကာလအတိုင်းသာ ဖော်ပြရန်ဖြစ်ပါသည်၊

(စ) စာချုပ်(မူကြမ်း)အပိုဒ် ၄ တွင် ဆောက်လုပ်ရေးကာလအား (၂၄)လ ဟု ဖော်ပြထားပါသည်။ MOA မိတ္တူ အပိုဒ် ၃ ၌ ဆောက်လုပ်ရေးကာလအား (၁၈)လ ဟု ဖော်ပြထား၍ စာချုပ်(မူကြမ်း)ပါ ဆောက်လုပ်ရေးကာလ(၂၄)လ အား ပြန်လည်စိစစ်ရန်ဖြစ်ပါသည်၊

(ဆ) စာချုပ်(မူကြမ်း)အပိုဒ် ၁၂ ၌ စာချုပ်သက်တမ်းသည် အပိုဒ် ၃ အကျိုးတူပူးပေါင်းဆောင်ရွက်မည့် ကာလ၌ ဖော်ပြထားသည့်အတိုင်းဖြစ်သည်ဟု ဖော်ပြထားပါသည်။ အပိုဒ် ၃ တွင် အကျိုးတူပူးပေါင်းဆောင်ရွက်မည့် ကာလသည် ကနဦးနှစ်ပေါင်း (၅၀)နှင့် (၁၀)နှစ် (၂)ကြိမ် သက်တမ်းတိုးခွင့်ရှိသည်ဟု ဖော်ပြထားရာ အကျိုးတူပူးပေါင်းဆောင်ရွက်မည့် ကာလသည် MOA ၌ ဖော်ပြထားသည့်အတိုင်း ဖော်ပြရန်ဖြစ်သောကြောင့် စာချုပ်သက်တမ်းအား ပြန်လည်စိစစ်ဖော်ပြရန်ဖြစ်ပါသည်၊

(ဇ) စာချုပ်(မူကြမ်း)အပိုဒ် ၁၃ ၌ SHC သည် အကျိုးတူပူးပေါင်းဆောင်ရွက်မည့်မြေကို ဥပဒေနှင့်အညီ အကျိုးခံစားခွင့်ရှိသူဖြစ်ကြောင်းဟု ဖော်ပြထားပါသည်။ စာချုပ်(မူကြမ်း)၌ စီမံကိန်း၏ အခ်ပွာယ်ဖွင့်ဆိုချက်တွင် မြန်မာစီးပွားရေးကော်ပိုရေးရှင်းပိုင်မြေ (၈)ဧက အကျယ်ရှိမြေနေရာနှင့် ဆက်စပ်သည့်ကမ်းနားနယ်ဟု ဖော်ပြထားရာ SHC အနေဖြင့် အဆိုပါ မြေနေရာကို မြန်မာစီးပွားရေးကော်ပိုရေးရှင်းထံမှ မည်သို့ရယူ ဆောင်ရွက်ထားကြောင်းကို ရှင်းလင်းစွာဖော်ပြရန်လိုအပ်ပါသည်၊

(ဈ) စာချုပ်(မူကြမ်း) အပိုဒ် ၁၅.၁ ၌ ဤစာချုပ်သည် စာချုပ်ဝင်များ၏ စာဖြင့်ရေးသားထားသော သဘောတူညီချက်ဖြင့် ရပ်စဲခြင်းမပြုခဲ့ပါက ကနဦးနှစ်(၅၀)နှင့် သက်တမ်းတိုး(၁၀)နှစ် (၂)ကြိမ် ကာလအတွက် ဆက်လက်အကျိုးသက်ရောက်မှုရှိစေရမည်ဟု ဖော်ပြထားပါသည်။ စာချုပ်ဝင်များ၏ စာဖြင့် ရေးသားသဘောတူညီချက်မဟုတ်ဘဲ အခြားကိစ္စရပ်များကြောင့် စာချုပ်အားရပ်စဲလိုပါက အပိုဒ် ၁၅.၁ ၌ ဖော်ပြချက်အရ စာချုပ်ဝင်များ၏ စာဖြင့် ရေးစားထားသော သဘောတူညီချက်ကြောင့်မဟုတ်လျှင် စာချုပ်အားရပ်စဲ၍ ရနိုင်မည်မဟုတ်ပါ။ ထို့အပြင် စာချုပ်(မူကြမ်း) အပိုဒ် ၁၅.၂ ၌ ရပ်စဲ၍ ရနိုင်မည်မဟုတ်ပါ။ ထို့အပြင် စာချုပ်(မူကြမ်း) အပိုဒ် ၁၅.၂ ၌ စာချုပ်ရပ်စဲနိုင်သည့် အချက်များကို ဖော်ပြထားခြင်း၊ အပိုဒ်ခွဲ ၁၅. ၂. ၄ ၌

စာချုပ်ဝင်နှစ်ဦးစလုံး၏ သဘောတူညီချက်ဖြင့် ရပ်စဲခြင်းဟုဖော်ပြထားခြင်း စသည်တို့ကြောင့် အပိုဒ် ၁၅.၁ အား ပယ်ဖျက်ရန်ဖြစ်ပါသည်၊

(ည) စာချုပ်(မူကြမ်း)သည် Liquified Petroleum Gas (LPG) လုပ်ငန်းဆိုင်ရာ စီမံကိန်း အကောင်အထည်ဖော်ရန်ဖြစ်ကြောင်း တွေ့ရှိရပါသည်။ ၂၀၁၇ ခုနှစ်၊ ပြည်ထောင်စုလွှတ်တော်ဥပဒေအမှတ် ၂၀၊ ရေနံနှင့် ရေနံထွက်ပစ္စည်းဆိုင်ရာ ဥပဒေပုဒ်မ ၁၀(က) အရ သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေး ဝန်ကြီးဌာနသည် သိုလှောင်ကန်နှင့် သိုလှောင်ရုံများအတွက် သိုလှောင်ခွင့် လိုင်စင်ထုတ်ပေးရမည်ဟုလည်းကောင်း၊ ယင်းဥပဒေ ပုဒ်မ ၁၅ တွင် ဘေးအန္တရာယ်မရှိသော ရေနံနှင့် ရေနံထွက်ပစ္စည်းများကို ပြည်တွင်း၌ ဂါလန် ၅၀၀ ထက် ပိုမိုလျှင် လိုင်စင်ရယူရမည်။ သို့ရာတွင် သယ်ယူပို့ဆောင်ခြင်း သို့မဟုတ် သိုလှောင်ခြင်းပြုလုပ်လိုသူသည် စုစုပေါင်းဂါလန် ၅၀၀ နှင့် အောက်ရှိသော ပမာဏကိုထားသိုရာတွင် ဂါလန် ၂၀၀ ထက် မကျော်လွန်သည့် ထုပ်ပိုးထည့်သွင်းပစ္စည်းကို အသုံးပြုရမည်ဟုလည်းကောင်း ပြဋ္ဌာန်းထားပါသည်။ သို့ပါ၍ ဆောင်ရွက်မည့် LPG လုပ်ငန်းဆိုင်ရာ စီမံကိန်းနှင့် စပ်လျဉ်း၍ ယင်းဥပဒေပြဋ္ဌာန်းချက်များနှင့်အညီ ဆောင်ရွက်ရန် ဖြစ်ပါသည်။ ထို့ပြင် ဓာတ်ဆီ၊ ဒီဇယ်ဆီနှင့် ဆီသိုလှောင်ခြင်း၊ ဆီသိုလှောင်ကန်၊ ဓာတ်ငွေ့သိုလှောင်ကန်နှင့် ဆိပ်ခံတံတားများ တည်ဆောက် တပ်ဆင်၍ လုပ်ငန်းများအကောင်အထည်ဖော်ခြင်း လုပ်ငန်းများအတွက် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၀-၄-၂၀၁၇ ရက်စွဲပါ အမိန့် ကြော်ငြာ စာအမှတ် ၁၅/၂၀၁၇ အပိုဒ် (ဃ)၊ အစဉ် ၆(၄)အရ လျှပ်စစ်နှင့် စွမ်းအင် ဝန်ကြီးဌာန၏ အတည်ပြုချက်ရယူရန် လိုအပ်မည်ဖြစ်ပါသည်၊

(ဋ) စာချုပ်(မူကြမ်း)၌ Withholding Tax၊ Commercial Tax တို့အား မည်သို့

ပေးဆောင်မည်ဖြစ်ကြောင်း ဖော်ပြမထား၍ ယင်းကိစ္စနှင့် စပ်လျဉ်း၍ စီမံကိန်းနှင့် ဘဏ္ဍာရေးဝန်ကြီးဌာနနှင့် ညှိနှိုင်းဆောင်ရွက်ရန်ဖြစ်ပါသည်၊

(ဌ) စာချုပ်(မူကြမ်း)ပါ မြန်မာဘာသာနှင့် အင်္ဂလိပ်ဘာသာတို့အကြား ဘာသာပြန်ဆိုမှုကိုက်ညီစေရေးအတွက် ဌာနကတာဝန်ယူစိစစ်ရန်ဖြစ်ပါသည်၊

(ဍ) လိုအပ်သော နေရာအချို့၌ မင်နီဖြင့် ပြင်ဆင်ပေးလိုက်ပါသည်။

၆။ ဤ စာချုပ်(မူကြမ်း)ကို ပြည်ထောင်စုရှေ့နေချုပ်ဥပဒေနှင့်အညီ ဥပဒေကြောင်းအရ ဥပဒေအကြံဉာဏ်ပေးခြင်းဖြစ်ပါသည်။ ဥပဒေရေးရာမဟုတ်သည့် စီမံရေးရာ၊ ဘဏ္ဍာရေးရာ ကျွမ်းကျင်မှုဆိုင်ရာကိစ္စရပ်များ နှင့်စပ်လျဉ်း၍ သက်ဆိုင်ရာကျွမ်းကျင်သူများနှင့် ဆွေးနွေးညှိနှိုင်းဆောင်ရွက်ရန် အကြံပြုပါသည်။

၇။ STAR HIGH Co., Ltd (SHC) နှင့် CECA GOLD Co., Ltd (CECA)တို့သည် ဥပဒေအရ တရားဝင်ဖွဲ့စည်းထားသည့် ကုမ္ပဏီများဟုတ် မဟုတ်၊ စာချုပ်ပါလုပ်ငန်းများကို လုပ်ကိုင်နိုင်ခွင့်နှင့် လုပ်ကိုင်နိုင်စွမ်းရှိ မရှိ၊ ငွေကြေးအင်အား ပြည့်စုံမှုရှိ မရှိ၊ စာချုပ်တွင် လက်မှတ်ရေးထိုးမည့်သူများသည် တရားဝင်လွှဲအပ်ခြင်းခံရသူများဟုတ် မဟုတ်စသည်တို့ကို ကြိုတင်စိစစ်ရန် လိုအပ်မည်ဖြစ်ပါသည်။

၈။ ဤ စာချုပ် (မူကြမ်း)ကို လက်မှတ်ရေးထိုးချုပ်ဆိုပြီးပါကမှတ်တမ်းတင်ထားနိုင်ရန်အတွက် ဤရုံးသို့ မိတ္တူ(၃)စောင် ပေးပို့ပါရန် မေတ္တာရပ်ခံအပ်ပါသည်။

(ဒေါက်တာသိတာဦး)
ညွှန်ကြားရေးမှူးချုပ်

ဦးဆောင်ညွှန်ကြားရေးမှူး
မြန်မာ့စီးပွားရေးကော်ပိုရေးရှင်း
စစ်ထောက်ချုပ်ရုံး
ကာကွယ်ရေးဦးစီးချုပ်ရုံး(ကြည်း)

မိတ္တူ - ရုံးလက်ခံ / မျှောစာတွဲ

**မြန်မာစီးပွားရေးကော်ပိုရေးရှင်း၊ Star High Co., Ltd. နှင့် Ceca Gold Co., Ltd. တို့ ချုပ်ဆိုမည့် အကျိုးတူစီးပွားရေးလုပ်ငန်း ပူးပေါင်းဆောင်ရွက်မှုသဘောတူစာချုပ် (မူကြမ်း) အပေါ် ပြည်ထောင်စုရှေ့နေချုပ်ရုံး၏ စိစစ်အကြံပြုချက်အရ ပြင်ဆင်ဖြည့်စွက်ထားရှိမှု အခြေအနေတင်ပြခြင်း**

၁။ **"Star High Co., Ltd. (SHC)သည် မြန်မာစီးပွားရေးကော်ပိုရေးရှင်းနှင့် မည်သို့ ဆက်စပ်ပတ်သက်မှုရှိကြောင်း ရှင်းလင်းဖော်ပြပေးရန်"** အချက်နှင့် စပ်လျဉ်းပြီး၊ MEC နှင့် Star High Co., Ltd. တို့သည် Affiliate Company များဖြစ်ကြ၍ စာချုပ်၏ နိဒါန်းပိုင်းတွင် **"Star High Co., Ltd. သည် မြန်မာစီးပွားရေးကော်ပိုရေးရှင်း၏ လက်အောက်ခံကုမ္ပဏီတစ်ရပ်ဖြစ်ကြောင်း"** ဖြည့်စွက်ရေးသားပြီး ဖြစ်ပါသည်။

၂။ **"စီမံကိန်းဆောင်ရွက်မည့် မြေနေရာသည် MEC နှင့် SHC တို့အကြား မည်သူက ပိုင်ဆိုင်ကြောင်း ရှင်းလင်းမှု မရှိခြင်း"** အချက်နှင့် စပ်လျဉ်း၍ **"စာချုပ်၏အဓိပ္ပာယ်ဖွင့်ဆိုချက်များနှင့် အဓိပ္ပာယ်ကောက်ယူခြင်း"** ခေါင်းစဉ်အောက်ရှိ **"စီမံကိန်း"** ဟူသော စကားရပ်တွင် MEC ပိုင် (၈)ကေအကျယ်ရှိ **"SHC က လက်ဝယ်ထား စီမံခန့်ခွဲခွင့်ရှိသော မြေနေရာ"** ဟု ဖြည့်စွက် ဖော်ပြရေးသားပြီး ဖြစ်ပါသည်။

၃။ **"စီမံကိန်းဆောင်ရွက်မည့် မြေ၏ မြေခွန်အား မည်သူက ပေးဆောင်မည်ဖြစ်ကြောင်း ဖော်ပြ ပေးရန်"** အချက်နှင့် စပ်လျဉ်း၍ စာချုပ် (မူကြမ်း)၊ **"SHC တာဝန်များ"** ခေါင်းစဉ်အောက်တွင် အပိုဒ်ခွဲ ၂.၄.၈ ဖြင့် **"လုပ်ငန်းဆောင်ရွက်မည့် စီမံကိန်းမြေနေရာ၏ မြေခွန်ကို SHC က ပေးဆောင်ရမည်"** ဟု ဖြည့်စွက်ဖော်ပြပြီး ဖြစ်ပါသည်။

၄။ စာချုပ် (မူကြမ်း)အပိုဒ် ၂.၅ CECA ၏ တာဝန်များ၊ အပိုဒ်ခွဲ ၂.၅.၉ ၌ LPG Tank များ ထပ်မံတိုးချဲ့တည်ဆောက်လုပ်ကိုင်ခွင့်နှင့် စပ်လျဉ်း၍ **"မြန်မာစီးပွားရေးကော်ပိုရေးရှင်း၊ မြန်မာ နိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်နှင့် လျှပ်စစ်နှင့်စွမ်းအင်ဝန်ကြီးဌာနသို့ တင်ပြ၍ အတည်ပြုချက် ရရှိပြီးမှသာလျှင် ဆောင်ရွက်ရမည်ဟု ပြင်ဆင်ဖော်ပြရန်"** အချက်နှင့် ပတ်သက်၍ စာပိုဒ်ခွဲ ၂.၅.၉ တွင် ဖြည့်စွက်ဖော်ပြပြီး ဖြစ်ပါသည်။

၅။ စာချုပ် (မူကြမ်း)အပိုဒ် ၁၅.၁ ၌ ဖော်ပြချက်အရ **"စာချုပ်ဝင်များ၏ စာဖြင့် ရေးသားထားသော သဘောတူညီချက်ကြောင့် မဟုတ်ဘဲ၊ အခြားကိစ္စရပ်များကြောင့် ဖြစ်လျှင် စာချုပ်အား ရပ်စဲ၍ ရနိုင်မည်မဟုတ်၍ ယင်းအပိုဒ်အား ပယ်ဖျက်ရန်"** အချက်နှင့် စပ်လျဉ်း၍ ပယ်ဖျက်ထားရှိပြီး ဖြစ်ပါသည်။

**မြန်မာစီးပွားရေးကော်ပိုရေးရှင်း၊ Star High Co., Ltd. နှင့် Ceca Gold Co., Ltd. တို့ ချုပ်ဆိုမည့် အကျိုးတူစီးပွားရေးလုပ်ငန်း ပူးပေါင်းဆောင်ရွက်မှုသဘောတူစာချုပ် (မူကြမ်း) အပေါ် ပြည်ထောင်စုရှေ့နေချုပ်ရုံး၏ စိစစ်အကြံပြုချက်အရ ပြင်ဆင်ဖြည့်စွက်ထားရှိမှု အခြေအနေတင်ပြခြင်း**

၁။ **"Star High Co., Ltd. (SHC)သည် မြန်မာစီးပွားရေးကော်ပိုရေးရှင်းနှင့် မည်သို့ ဆက်စပ်ပတ်သက်မှုရှိကြောင်း ရှင်းလင်းဖော်ပြပေးရန်"** အချက်နှင့် စပ်လျဉ်းပြီး၊ MEC နှင့် Star High Co., Ltd. တို့သည် Affiliate Company များဖြစ်ကြ၍ စာချုပ်၏ နိဒါန်းပိုင်းတွင် **"Star High Co., Ltd. သည် မြန်မာစီးပွားရေးကော်ပိုရေးရှင်း၏ လက်အောက်ခံကုမ္ပဏီတစ်ရပ်ဖြစ်ကြောင်း"** ဖြည့်စွက်ရေးသားပြီး ဖြစ်ပါသည်။

၂။ **"စီမံကိန်းဆောင်ရွက်မည့် မြေနေရာသည် MEC နှင့် SHC တို့အကြား မည်သူက ပိုင်ဆိုင်ကြောင်း ရှင်းလင်းမှု မရှိခြင်း"** အချက်နှင့် စပ်လျဉ်း၍ **"စာချုပ်၏အဓိပ္ပာယ်ဖွင့်ဆိုချက်များနှင့် အဓိပ္ပာယ်ကောက်ယူခြင်း"** ခေါင်းစဉ်အောက်ရှိ **"စီမံကိန်း"** ဟူသော စကားရပ်တွင် MEC ပိုင် (၈)ကေအကျယ်ရှိ **"SHC က လက်ဝယ်ထား စီမံခန့်ခွဲခွင့်ရှိသော မြေနေရာ"** ဟု ဖြည့်စွက်ဖော်ပြရေးသားပြီး ဖြစ်ပါသည်။

၃။ **"စီမံကိန်းဆောင်ရွက်မည့် မြေ၏ မြေခွန်အား မည်သူက ပေးဆောင်မည်ဖြစ်ကြောင်း ဖော်ပြပေးရန်"** အချက်နှင့် စပ်လျဉ်း၍ စာချုပ် (မူကြမ်း)၊ **"SHC တာဝန်များ"** ခေါင်းစဉ်အောက်တွင် အပိုဒ်ခွဲ ၂.၄.၈ ဖြင့် **"လုပ်ငန်းဆောင်ရွက်မည့် စီမံကိန်းမြေနေရာ၏ မြေခွန်ကို SHC က ပေးဆောင်ရမည်"** ဟု ဖြည့်စွက်ဖော်ပြပြီး ဖြစ်ပါသည်။

၄။ စာချုပ် (မူကြမ်း)အပိုဒ် ၂.၅ CECA ၏ တာဝန်များ၊ အပိုဒ်ခွဲ ၂.၅.၉ ၌ LPG Tank များ ထပ်မံတိုးချဲ့တည်ဆောက်လုပ်ကိုင်ခွင့်နှင့် စပ်လျဉ်း၍ **"မြန်မာစီးပွားရေးကော်ပိုရေးရှင်း၊ မြန်မာနိုင်ငံရေနံနှင့်သဘာဝဓာတ်ငွေ့လုပ်ငန်းနှင့်ဆက်စပ်သည့်ကော်မရှင်နှင့် လျှပ်စစ်နှင့်စွမ်းအင်ဝန်ကြီးဌာနသို့ တင်ပြ၍ အတည်ပြုချက်ရရှိပြီးမှသာလျှင် ဆောင်ရွက်ရမည်ဟု ပြင်ဆင်ဖော်ပြရန်"** အချက်နှင့် ပတ်သက်၍ စာပိုဒ်ခွဲ ၂.၅.၉ တွင် ဖြည့်စွက်ဖော်ပြပြီး ဖြစ်ပါသည်။

၅။ စာချုပ် (မူကြမ်း)အပိုဒ် ၁၅.၁ ၌ ဖော်ပြချက်အရ **"စာချုပ်ဝင်များ၏စာဖြင့် ရေးသားထားသော သဘောတူညီချက်ကြောင့် မဟုတ်ဘဲ၊ အခြားကိစ္စရပ်များကြောင့် ဖြစ်လျှင် စာချုပ်အား ရပ်စဲ၍ ရနိုင်မည်မဟုတ်၍ ယင်းအပိုဒ်အား ပယ်ဖျက်ရန်"** အချက်နှင့် စပ်လျဉ်း၍ ပယ်ဖျက်ထားရှိပြီး ဖြစ်ပါသည်။

၆။ Withholding Tax နှင့် Commercial Tax တို့အား မည်သို့ ပေးဆောင်မည်ဖြစ်ကြောင်း ဖော်ပြမထားခြင်းနှင့် စပ်လျဉ်း၍ CECA ၏ တာဝန်များ ခေါင်းစဉ်အောက်ရှိ စာချုပ် (မူကြမ်း) အပိုဒ်ခွဲ ၂.၅.၁၄ တွင် ပြည့်စုံစွာ ဖော်ပြထားပြီးဖြစ်ကြောင်းနှင့် MIC သို့ တင်ပြချိန်တွင်လည်း သတ်မှတ်ညွှန်ကြားချက်အတိုင်း ဆောင်ရွက်သွားပါမည်။

၇။ SHC ၏ တာဝန်များ အပိုဒ်ခွဲ ၂.၄.၄ ၌ CECA ၏ LPG သင်္ဘောများ ဆိပ်ခံတံတားသို့ ဆိုက်ကပ်ချိန်တွင် တံတားကပ်ခ၊ တံတားအသုံးပြုခနှင့် ကုန်တင်/ကုန်ချခ စသည်တို့အား မြန်မာ့ဆိပ်ကမ်းအာဏာပိုင်မှ သတ်မှတ်ပြဋ္ဌာန်းထားသည့် နှုန်းထားအပေါ် ၃% လျော့၍ ပေးချေခွင့်ပြုရမည်ဟု ဖော်ပြထားသဖြင့် မြန်မာ့ဆိပ်ကမ်းအာဏာပိုင်နှင့် ညှိနှိုင်းဆောင်ရွက်ရန် အချက်နှင့် စပ်လျဉ်းပြီး၊ မိမိတို့ MEC (SHC) အနေဖြင့် ဆက်လက်ညှိနှိုင်းဆောင်ရွက်သွားပါမည်။

၈။ MOA တွင် ဆောက်လုပ်ရေးကာလ ၁၈ လဖြစ်ပြီး၊ စာချုပ် (မူကြမ်း) တွင် ၂၄ လ ဖြစ်နေခြင်းအတွက် ပြန်လည်စိစစ်ရန် အချက်နှင့် စပ်လျဉ်း၍ လုပ်ငန်းလိုအပ်ချက်အရ တင်ပြအတည်ပြုချက်ဖြင့် ဆောက်လုပ်ရေးကာလအား စာချုပ် (မူကြမ်း) တွင် ၂၄ လဖြင့် ဖော်ပြခြင်း ဖြစ်ပါကြောင်းနှင့် MOA တွင်လည်း ပြန်လည်ပြင်ဆင်ဆောင်ရွက်ထားပြီး ဖြစ်ပါသည်။

၉။ အကျိုးတူ ပူးပေါင်းဆောင်ရွက်မည့်ကာလ (စာချုပ်သက်တမ်း) သည် MOA တွင် ၃၀ နှစ် + ၁၀ + ၁၀ ဖြစ်ပြီး၊ စာချုပ် (မူကြမ်း) တွင် ကနဦး ၅၀ နှစ် + ၁၀ + ၁၀ ဟု ဖော်ပြခြင်းအတွက် စိစစ်ရန်အချက်နှင့် စပ်လျဉ်း၍ လုပ်ငန်းလိုအပ်ချက်အရ တင်ပြအတည်ပြုချက်ဖြင့် စာချုပ် (မူကြမ်း) တွင် ကနဦး ၅၀ နှစ် + ၁၀ + ၁၀ ဟု ဖော်ပြခြင်း ဖြစ်ပါကြောင်းနှင့် MOA တွင်လည်း ပြန်လည်ပြင်ဆင်ဆောင်ရွက်ထားပြီး ဖြစ်ပါသည်။

၁၀။ စာချုပ် (မူကြမ်း) အပိုဒ် ၁၃ ၌ SHC သည် အကျိုးတူ ပူးပေါင်းဆောင်ရွက်မည့် မြေကို ဥပဒေနှင့်အညီ အကျိုးခံစားခွင့်ရှိသူဖြစ်ကြောင်း ဖော်ပြထားရာ SHC အနေဖြင့် အဆိုပါမြေနေရာကို မြန်မာစီးပွားရေးကော်ပိုရေးရှင်း ထံမှ မည်သို့ ရယူဆောင်ရွက်ထားကြောင်းကို ရှင်းလင်းစွာ ဖော်ပြရန် လိုအပ်ပါသည် ဟူသည့် အချက်နှင့် စပ်လျဉ်း၍ ယင်းမြေသည် မြန်မာစီးပွားရေးကော်ပိုရေးရှင်း ကွပ်ကဲမှုအောက် သင်္ဘောဖျက်စက်ရုံ (သီလဝါ) အမည်ပေါက် ပိုင်ဆိုင်ခြင်းဖြစ်ပြီး၊ SHC သည် MEC ၏ Affiliate Company ဖြစ်ခြင်း၊ Subsidiary ဖြစ်ခြင်းတို့ကြောင့် SHC အနေဖြင့် လက်ဝယ်ထားစီမံခန့်ခွဲခွင့်ရှိသည့် မြေဖြစ်သည်။

၁၁။ စာချုပ် (မူကြမ်း) အရ LPG စီမံကိန်းဖြစ်၍ သတ်မှတ်ထားသည့် ဥပဒေ၊ ပုဒ်မများအရလည်းကောင်း၊ MIC ၏ ၁၀-၄-၂၀၁၇ ရက်စွဲပါ အမိန့်ကြော်ငြာစာအမှတ်၊ ၁၅/၂၀၁၇ အပိုဒ် (ဃ)၊ အစဉ် ၆ (၄) အရ လည်းကောင်း၊ လျှပ်စစ်နှင့် စွမ်းအင်ဝန်ကြီးဌာန၏ အတည်ပြုချက်ရယူရန် လိုအပ်မည်ဟူသည့် အချက်နှင့် စပ်လျဉ်း၍ MIC သို့ တင်ပြချိန်တွင် သတ်မှတ်ညွှန်ကြားချက်အတိုင်း လိုက်နာဆောင်ရွက်သွားပါမည်။

၁၂။ စာချုပ် (မူကြမ်း) ပါ မြန်မာဘာသာနှင့် အင်္ဂလိပ်ဘာသာတို့အကြား ဘာသာပြန်ဆိုမှုကိုက်ညီစေရေးအတွက် ဌာနက တာဝန်ယူစိစစ်ရန်အချက်နှင့် စပ်လျဉ်း၍ လိုက်နာဆောင်ရွက်သွားပါမည်။

MINISTRY OF PLANNING AND FINANCE
DIRECTORATE OF INVESTMENT AND COMPANY ADMINISTRATION

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
စီမံကိန်းနှင့် ဘဏ္ဍာရေးဝန်ကြီးဌာန

# ကုမ္ပဏီမှတ်ပုံတင်လက်မှတ်

အမှတ် ၉၇၃ အက်ဖ်စီ / ၂၀၁၆-၂၀၁၇ (ရက)

မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေအရ စီကာ ဂိုး(လ်ဒ်) ကုမ္ပဏီ လီမိတက် အား ပေးရန်တာဝန် ကန့်သတ်ထားသော လီမိတက် ကုမ္ပဏီအဖြစ် ၂၀၁၇ ခုနှစ်၊ ဇန်နဝါရီလ၊ ၂၃ ရက်နေ့တွင် မှတ်ပုံတင်ခွင့်ပြုလိုက်သည်။

ညွှန်ကြားရေးမှူးချုပ်(ကိုယ်စား)
(နီလာမူ၊ ညွှန်ကြားရေးမှူး)
ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန

THE GOVERNMENT OF THE REPUBLIC OF THE UNION OF MYANMAR
MINISTRY OF PLANNING AND FINANCE

# CERTIFICATE OF INCORPORATION

NO. 973 FC of 2016-2017 (YGN)

I hereby certify that CECA GOLD COMPANY LIMITED is this day incorporated under the Myanmar Companies Act and that the company is Limited.

Given under my hand at Yangon this TWENTY THIRD day of JANUARY, TWO THOUSAND AND SEVENTEEN.

For Director General
(Nilar Mu - Director)
Directorate of Investment and Company Administration

ဤကုမ္ပဏီမှတ်ပုံတင်လက်မှတ်သည်(၂၃-၁-၂၀၁၇) မှ (၂၂-၁-၂၀၂၂) ရက်နေ့ အထိ (၅)နှစ် သက်တမ်းအတွက်သာ ဖြစ်သည်။ သက်တမ်း မကုန်ဆုံးမီ (၃)လအလိုတွင် သက်တမ်းတိုးရန် ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများညွှန်ကြားမှု ဦးစီးဌာနသို့ လျှောက်ထားရမည်။

ညွှန်ကြားရေးမှူးချုပ်(ကိုယ်စား)
(သက်ပိုင်၊ ဒုတိယညွှန်ကြားရေးမှူး)

ISSUED DATE

THE GOVERNMENT OF THE REPUBLIC OF THE UNION OF MYANMAR

MINISTRY OF PLANNING AND FINANCE

# FORM I

## FORM OF PERMIT

(See section 27 A)

Permit No 973 FC/2016-2017 (YGN)

Date 23rd January, 2017

The Ministry of Planning and Finance of the Government of the Republic of the Union of Myanmar in pursuance of the Myanmar Companies Act hereby grants a permit to the CECA GOLD COMPANY LIMITED in respect of which particulars are detailed below, to carry on its business within the Republic of the Union of Myanmar subject to the provisions contained in the said Act.

| | | |
|---|---|---|
| (1) | Name of the Company | Ceca Gold Co., Ltd. |
| (2) | Country of incorporation of the company. | The Republic of the Union of Myanmar |
| (3) | Location of the company's Head Office and / or Principal Office in the Republic of the Union of Myanmar | No.(156), First Floor, Mahabandoola Street, Pazundaung Township, Yangon. |
| (4) | The object for which the company is formed (field of business). | Mentioned in back page. |
| (5) | (a) The amount of Capital and the number of shares into which the Capital is divided. | US$ 1,000,000 divided into 1,000,000 shares of US$ 1 each. |
| | (b) If more than one class of shares is authorised, the description of each class. | Only one class. |
| (6) | The names, addresses and nationality of the directors. | As per List attached. |
| (7) | The maximum amount of indebtedness which may be incurred by the company and also a prohibition against the contracting of debts in excess of that amount. | As per conditions attached. |
| (8) | Period of validity of permit. | January 23, 2017 to January 22, 2022 |
| (9) | Statement of compliance with legal requirements for issue of Capital including the amount to be paid in before business is commenced. | As per conditions attached. |
| (10) | Statement of compliance with such conditions as may be prescribed. | The conditions attached to the permit and conditions as may be prescribed from time to time are also to be strictly adhered to by the company. |

By order

For Director General

(Nilar Mu - Director)

Directorate of Investment and Company Administration

(1) To carry out commercial business relating to Construction Materials. Fertilizer, seeds, pesticides and medical instruments.

(2) To carry out agency business, technical consultancy, business consultancy, Logistics and freight forwarding services, Warehouse management, market reserch consultancy, management consultancy services. advisory services and services relating to Energy, Petroleum, Metro Chemical and Gas.

For Director General
(Thet Paing - Deputy Director)

The business objectives mentioned in the Memorandum of Association shall be allowed to perform. If it is necessary, permit or license from relevant Union Ministries, Departments and Organizations of the Republic of the Union of Myanmar must be obtained in accordance with existing laws, rules and regulations.

022003

FORM VI

# RETURN OF ALLOTMENTS
# THE MYANMAR COMPANIES ACT.

(See Section 104)

(To be filed with the Registrar within one month after the allotment is made)

Return of allotment from the 30th of May 20 2017.

on the of 20 of the * CECA GOLD COMPANY LIMITED

Made pursuant to Section 104 (1)

Number of the shares allotted payable in cash .................. 35,714 Shares

" " " " ..................

Nominal amount of the shares so allotted .................. US$ 35,714

" " " " ..................

Amount paid or due and payable on cash such share .................. US$ 1 ( Fully Paid Up )

" " " " ..................

Number of ordinary shares allotted for a consideration other than cash

Nominal amount to be ordinary shares so allotted .................. NIL

Amount to be treated as paid on each such share .................. NIL

The consideration for which such share have been allotted is as follow : -

---

**NOTE** In making a return of allotments under Section 104 (1) the Myanmar Companies Act., it is to be noted that -

1. When a return include several allotments made on different dates, the actual date of only the first and last of such allotment should be entered at the tip of the front page, and the registration of the return should be effected within one month of the first date.

2. When a return relates to one allotment only, made on one particular date, that date only should be inserted and the spaces for the second date struck out and the world made substituted for the world "From" after the world "allotments" above.

Here insert name of Company.

Distinguish between preference, ordinary, or other description of shares.

